## ❮သတိပေးချက်❯

ဤစာအုပ်မှ စာသားများကို ကူယူဖော်ပြခြင်း၊ မှီငြမ်းကိုးကားခြင်း၊ ဓာတ်ပုံရိုက်၍ **Social Media** များ၌တင်ခြင်းကို ❮လုံး၀❯ လုံး၀ခွင့်မပြုပါ။

بسم الله الرحمن الرحيم

## မာတိကာ

မာတိကာ

မာတိကာ

မာတိကာ

## စာရေးသူ၏ အမှာစာ

ချီးမွမ်းထောမနာပြုခြင်းအပေါင်းသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအတွက်သာ ဖြစ်တော်မူပါသည်။ ထိုအရှင်မြတ်ဘက် တော်မှ လမ်းမှန်ပြသပေးခြင်းခံရသူသည် မည်သို့မျှပင် လမ်းလွဲမည် မဟုတ်ပေ။ ထို့နောက် အကြင်အရှင်မြတ်က လမ်းမှားစေသူသည်လည်း မည်သို့မျှပင် လမ်းမှန်တရားရရှိနိုင်မည် မဟုတ်ပေ။ ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်မှအပ အခြားခဝပ်ကိုးကွယ်ခံထိုက်သော အရှင်မရှိ ကြောင်းကို သက်သေခံပါ၏။ ယင်းအရှင်မြတ်သည် မိမိ၏ ကျမ်းတော် မြတ်၌ ဤသို့ အမိန့်ရှိတော်မူထားပေသည်။ "ထိုမှတပါး (အသင်ပြော ကြားပါလေ။) ဤသည် ငါ၏ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ် ပေတည်း။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုလမ်းစဉ်ကိုသာ လိုက်ကြ လေကုန်။ ထို့ပြင် အခြားအခြားသော လမ်းစဉ်များကို မလိုက်နာကြကုန် လင့်။ အဘယ့်ကြောင့်ဆိုသော် ယင်းလမ်းစဉ်များသည် အသင်တို့အား ထိုအရှင်မြတ်၏ လမ်းတော်မှ ကွဲကွာစေမည် ဖြစ်သောကြောင့်ပင်။" (၆– ၁၅၃)

မုဟမ္မဒ်﴾ﷺ﴿သည် အလ္လာဟ်အရှင်မြတ်၏ ဗန္ဒဟ်အစေတော် နှင့် ရစူလ်တမန်တော်ဖြစ်ကြောင်းကို ကျွန်တော်မျိုး သက်သေခံပါ၏။ ယင်းရစူလ်စေတမန်တော်သည် ကျွန်တော်မျိုးတို့ကို အစ္စလာမ်သာ

သနာတော်အား စွဲမြဲစွာဆုပ်ကိုင်ရန်နှင့် စိတ်အလိုရမ္မက်များ၊ တရားသစ်များမှ ရှောင်ကျဉ်ရန် သတိပေးတော် မူထားပေသည်။ ထို့နောက် ထိုရစူလ်တမန်တော်(ﷺ)က ဟဇရသ် အိရ်ဘာဒ်ဗင်န်စာရီယာ(ﷺ)၏ ဆင့်ပြန်ချက်တွင် ဤသို့ မိန့်ခြွေထားပေသည်။ "ငါကိုယ်တော်မြတ်(ﷺ)သည် အသင်တို့ ကို ညဥ့်သည်နေ့အလား ထင်ရှားပြတ်သားသည့် လမ်းမှန်တရားပေါ်၌ ထားရှိခဲ့ခြင်းဖြစ်ရာ ပျက်စီးရန် အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားသူမှအပ အခြားသူတစ်ဦးတစ်ယောက်သည် ငါကိုယ်တော်မြတ်(ﷺ)နောက်တွင် လမ်းလွဲလမ်းမှားမည် မဟုတ်ပေ။ {ကိသားဗ္ဗလ်စွန္နသ်ကျမ်း၊ ဟဒီးစ်နံပါတ်-၄၇}

ဤကျမ်းငယ်သည် ကမ္ဘာပေါ်ရှိ ဘာသာတရားကြီးများနှင့် ဂိုဏ်းဂဏများအတွက် အကျဉ်းချုံးရေးသားပြုစုထားသော **သင်ရိုး**စာအုပ်တစ်အုပ်ပင် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် မွတ်စ်လင်မ်တစ်ဦးသည် မိမိအွမ္မသ်နှင့် သာသနာရေးကိစ္စများကို ဂဃနဏသိရှိပြီး နိုးကြားနေရန် အလွန်ပင်အရေးကြီးပေသည်။ တစ်ဖက်တွင်မူ မိမိပတ်ဝန်းကျင်၌တည်ရှိနေသော ဘာသာတရားများနှင့် ဂိုဏ်းဂဏများကိုလည်း တွင်တွင်ကျယ်ကျယ် သိရှိထားရန် လိုအပ်ပေသည်။ သို့မှသာ ၎င်းသည် လမ်းမှန်တရားဘက်သို့ အကောင်းမွန်ဆုံးပုံစံဖြင့် ဖိတ်ခေါ်သူ၊ လမ်းမှားမှ ကယ်တင်သူ ဖြစ်နိုင်ပေမည်။

အမှန်နှင့် အမှား၏ လွန်ဆွဲပွဲသည် လူသားတို့ကြား ရှိနေခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ စွန္နသ်တော်ပင် ဖြစ်ပေသည်။ သို့သော် အမှန်တရားကို ကူညီ၍ အအ်မလ်လုပ်ကာ ယင်းဘက်သို့ ဖိတ်ခေါ်သူသည် အမှန်တရားဘက်တော်သားပင် ဖြစ်သည်။ ၎င်းသည် အမှားကိုသိပြီး ရှောင်ကျဉ်ကာ ယင်းအမှားနှင့်ပတ်သက်၍ အခြားသူများကိုလည်း သတိပေးခြိမ်းခြောက်ပေသည်။

ယနေ့ခေတ်တွင် မွတ်စ်လင်မ်များကို မျိုးနွယ်စုတိုင်းက လက်နက်အရသော်လည်းကောင်း၊ အတွေးအခေါ်အရသော်လည်းကောင်း၊ အဖျက်အစီးများဖြင့်သော်လည်းကောင်း တိုက်ခိုက်နေကြပေသည်။ ဤသည် မွတ်စ်လင်မ်များက မိမိတို့ သာသာနာနှင့် ယုံကြည်ချက်များကို ဆုပ်ကိုင်ရာ၌ ပေါ့လျော့သည့်အတွက်ကြောင့် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ မွတ်စ်လင်မ်များသည် မိမိတို့သာသာနာကို စွဲမြဲစွာ ဆုပ်ကိုင်ပြီး ရန်သူတို့၏ ပရိယာယ်များကို သိရှိထားမှသာ ထိုပွဲတွင် အောင်နိုင်မှု ရရှိနိုင်ပေမည်။ ဤသည် ကျောင်းသားတစ်ဦးမဆိုထားနှင့် မွတ်စ်လင်မ်တိုင်း၏ တာဝန်တစ်ရပ်ပင် ဖြစ်သည်။ ထို့ကြောင့်ပင် ဘာသာတရားများနှင့် ဂိုဏ်းဂဏများအကြောင်းကို သိရှိရန် မွတ်စ်လင်မ်တိုင်းအတွက် အရေးကြီးလာပေသည်။

ဤစာအုပ်ငယ်တွင် ကျွန်တော်သည် ကျက်မှတ်ရန် လွယ်ကူရေးအတွက် အတတ်နိုင်ဆုံး အတိုချုံးကာ ဖော်ပြထားပေသည်။ ဤသို့

သော အလွန်ပင်အရေးပါလှသည့် အကြောင်းအရာများကို ရေးသားရာတွင် ပညာရပ်ဆိုင်ရာကိုးကားချက်များ၊ စာဒကများနှင့် ပြန်လည် ချေပချက်များကို ဖော်ပြသင့်ပေသည်။ သို့သော် ကျွန်တော်သည် လိုအပ်သည့် ချေပချက်များနှင့် အစ္စလာမ့်ရပ်တည်ချက်ကို အသားပေး၍ အတိုချုံးရေးသားခဲ့ပေသည်။ ထို့နောက် ဤစာအုပ်ငယ်သည် သုတေသနစာတမ်းတစ်ခုလည်း မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် ကျွန်တော်သည် ဤစာအုပ်ငယ်ကို **အခြေခံအဆင့် ကျောင်းသား/သူများအတွက်** ရည်ရွယ်၍ ရေးသားပြုစုခဲ့ခြင်းအတွက်ကြောင့် ဖြစ်သည်။

ကျောင်းသားညီနောင်များအတွက် ကျွန်ုပ်၏မပြောပလောက်သော ဤကြိုးပမ်းမှုကိုတင်ဆက်ရင်း ပညာရပ်၏ဝတ္တရားကို အပြည့်အဝမကျေပွန်နိုင်ခြင်းအပေါ် ကျွန်ုပ်၏လျော့နည်းမှုအား ဝန်ခံပါ၏။ ထို့နောက် ကျွန်ုပ်သည် လူသားဖြစ်သည့်အလျောက် မှားယွင်းချွတ်ချော်မှုများမှ ကင်းစင်ကြောင်းကိုလည်း မပြွက်ဟနိုင်ပါ။ ထို့ကြောင့် ကျွန်ုပ်၏မှားယွင်းချွတ်ချော်မှုကိုတွေ့ရှိပါက ကျေးဇူးပြု၍ အပြုသဘောဆောင်သည့်ပုံစံမျိုးဖြင့် အသိပေးအကြောင်းကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။ ထို့နောက် အလ္လာဟ်အရှင်သည် ဤစာအုပ်ဖြင့် မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို အကျိုးဖြစ်ထွန်းစေတော်မူ၍ ဖတ်ရှုသူ၊ ရေးသားသူ၊ မြန်မာစာပိုင်းကို တာဝန်ယူစစ်ဆေးပေးသည့် ဆရာ ကိုမင်း (B.A(His) နှင့် စာအုပ်ဖြစ်မြောက်ရေးတွင် ဝိုင်းဝန်းကူညီသူများအားလုံးကို မြင့်

မြတ်တော်မူသောအရှင်မြတ်က နှစ်ဌာနလုံးတွင် ကောင်းသော အစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

ဆန္ဒမွန်ဖြင့်.....မုဟမ္မဒ်ဖိုင်ဆွဲလ်
(အလ်ကောင်ဆရီ)

# အလ်ဟားဂျ် မော်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်(နဒ်ဝီ၊ မဇွာဟော့ရီ)၏ ရင်တွင်းစကား

စာပေဝါသနာရှင်တို့ရဲ့ စာပေလောကမှာ အပျော်ရဆုံး အခိုက်အတန့်လေးတွေဟာ ဘာများဖြစ်နိုင်ပါမလဲ....။ အဖြေကတော့.... သူတို့ရေးသားထားတဲ့ စာအုပ်တစ်အုပ်ထွက်လာခြင်းပါပဲ။

ဒါ့ကြောင့် စာအုပ်တစ်အုပ်ထွက်လာခြင်းဟာ သားသမီးရတနာတစ်ပါးထွန်းကားသလိုပဲလို့ တင်စားကြတာပါ။

ယခုစာရှုသူလက်ဝယ်ရှိ ကျမ်းငယ်မှာလည်း ကျွန်တော်၏ ချစ်မိတ်ဆွေ မော်လာနာမုဟမ္မဒ်ဖိုင်ဆွဲလ်(အလ်ကောင်ဆရီ)နှစ်ရှည် လများ ကြိုးစားရေးသားထားတဲ့ ကျမ်းဖြစ်ပါတယ်။ သူ့ဘဝစာပေအချိုးအကွေ့ရဲ့ အပျော်ဆုံး အခိုက်အတန့်ဖြစ်မှာပေါ့....။

စာအုပ်အမည်က အရဗီလိုဆိုပဲ... رسالة في الأديان والمذاهب المعاصرة (ကမ္ဘာ့ဘာသာတရားကြီးများနှင့် ခေတ်သစ်ဂိုဏ်းဂဏများ) တဲ့။

ဆရာက အာလင်မ်ကျောင်းများမှာ တက်ရောက်နေတဲ့ ကျောင်းသားကျောင်းသူတွေကို ကမ္ဘာ့ဘာသာတရားကြီးတွေ၊ ခေတ်သစ်ဂိုဏ်းဂဏတွေနဲ့ မိတ်ဆက်ပေးလိုက်တာပါ။

အမှန်တကယ်တော့ الأديان والفرق والمذاهب ဆိုတာသမိုင်း ကဏ္ဍရဲ့ အရေးပါလှတဲ့ သမိုင်းဘာသာရပ်ခွဲတစ်ခုပါ။ များသောအား ဖြင့် ကျွန်တော်တို့ ကျောင်းသင်ရိုးတွေမှာ အတန်းကြီးမှ အရဗီ၊ အူရဒူ ဘာသာစကား တစ်ခုခုနဲ့ ဖတ်ကြရတာပါ။ ယနေ့ခေတ်မှာတော့ အခြေ ခံအတန်းမှာ တက်ရောက်သင်ယူနေကြတဲ့ မြန်မာစာတတ် ကျောင်း သား၊ ကျောင်းသူများပါ အထက်ပါ ကမ္ဘာ့ဘာသာတရားကြီးများ၊ ဂိုဏ်း ဂဏများကို စောလျင်စွာ သိသင့်နေပြီဖြစ်သောကြောင့် ဆရာဖိုင်ဆွဲလ် မှ မြန်မာဘာသာဖြင့် ပြုစုလိုက်ခြင်းဖြစ်ပါတယ်။

ကျွန်ုပ်တို့အာလင်မ်သင်ရိုးရှိ ဘာသာရပ်တိုင်း၏ အခြေခံ စာ အုပ်များကို မြန်မာဘာသာဖြင့်သာ တင်ဆက်ခြင်းသည် ကျွန်ုပ်တို့ အိပ် မက်ဖြစ်ပါသည်။ ရင်သွေးငယ်တို့အနေဖြင့် သင်ရိုးပါ အခြေခံစာအုပ် များကို မိမိတို့မြန်မာဘာသာဖြင့် တိုက်ရိုက်နားလည်းခြင်းဖြင့် နား လည်လွယ်ပြီး၊ ထိရောက်မှုပိုမိုပါသည်။

အလ်ဟမ်ဒုလိလ္လာဟ်၊ အရှင်မြတ်ကျေးဇူးတော်ဖြင့် အာလင်မ် သင်ရိုးပါ အခြေခံဘာသာရပ်အများစုကို မျိုးဆက်သစ်အာလင်မ်များက ကျေးဇူးရှင်ဆရာသခင်ကြီးများ၏ လမ်းညွှန်မှုအောက်မှ မြန်မာဘာသာ ဖြင့် ရေးသားပြုစုပြီးခဲ့ပါပြီ။

ဤကျမ်းငယ်သည်လည်း အထက်ပါရည်ရွယ်ချက်ကို အကောင် အထည်ဖော်ပေးသည့် ကွင်းဆက်တစ်ခုဖြစ်ကြောင်း သတင်းကောင်း ပါးအပ်ပါသည်။

အာလင်မ်၊အာလေ့မဟ်ကျောင်းများတွင် တာဝန်ယူနေသော ကျောင်းအုပ်ဆရာကြီးများ၊ ပညာရေးမှူးများအနေဖြင့် ဤစာအုပ်ကို ကြည့်ရှုစစ်ဆေးပြီး မိမိတို့ကျောင်းသား၊ကျောင်းသူများအတွက် အကျိုးရှိမည်ဟု မျှော်လင့်ရပါက သင်ရိုးတွင် ထည့်သွင်းပေးသင့်ကြောင်း သတင်းကောင်းပါးအပ်ပါသည်။

မော်လာနာ ဖိုင်ဆွဲလ် (အလ်ကောင်ဆရီ)၏ ကြိုးပမ်းမှုအရပ်ရပ်ကို မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ် လက်ခံသဘောတူတော်မူပါစေ။ ဆရာပြုစုခဲ့သမျှကျမ်းများ၊ ပြုစုနေဆဲ ကျမ်းများနှင့် နောင်တွင် ပြုစုမည့် ကျမ်းအားလုံးကိုလည်း လက်ခံသဘောတူတော်မူပြီး စာဖတ်ပရိသတ်အတွက် နှစ်ဘဝနှစ်ဌာနတွင် အကျိုးထူးများ ချီးမြှင့်ပေးသနားတော်မူပါစေ။

မုဟမ္မဒ်အာစွင်းမ်
(နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇွာဟေ့ရီ)
ဟာစ်ဂျ်ရီ (၁၄၄၅)ခု၊ ဂျူမာဒတ်ဆွာနီယာ
(၅)ရက်

# အခန်း(၁) နိဒါန်း။

1. ဘာသာတရားနှင့် ဂိုဏ်းဂဏများ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်။

2. မျက်မှောက်ခေတ် ဘာသာတရားများ၏ အခြေအနေ။

3. မျက်မှောက်ခေတ်နှင့် မွတ်စ်လင်မ် တစ်ဦး၏တာဝန်။

4. ဘာသာတရားအကြောင်း တစေ့တစောင်း။

# အခန်း(၁) နိဒါးန်း။

## 1 ဘာသာတရားနှင့် ဂိုဏ်းဂဏများ၏ အဓိပ္ပာယ်ဖွင့်ဆိုချက်။

الأديان ➲ (ဘာသာတရား) ဆိုသည်မှာ دين ၏ အများကိန်းဖြစ်သည်။ ယင်း၏ အဓိပ္ပာယ်မှာ အမိန့်နာခံခြင်းဖြစ်သည်။

➲ ဝေါဟာရအရ دين ဆိုသည်မှာ အကွယ်မှအရာ၊ လက်ရှိမြင်တွေ့နေရသောအရာများနှင့်ပတ်သက်၍ လူသားတို့ ယုံကြည်ကိုးကွယ်ခြင်းကို دين ဟု ခေါ်သည်။

အစ္စလာမ့် ရှုထောင့်အရ دين ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်ကို အရာအားလုံးနှင့်ပတ်သက်၍ ယုံပုံလွှဲအပ်ပြီး အလ္လာဟ်အရှင်မြတ်အမိန့်ကို နာခံခြင်းဖြစ်သည်။ ထို့နောက် دين ဆိုသည်မှာ တမန်တော်အာဒမ်《ﷺ》သခင် မှစ၍ ကိုယ်တော်မြတ်မုဟမ္မဒ်《ﷺ》ထိ ရစူလ်စေတမန် အပေါင်းတို့၏ အလ္လာဟ်တစ်ပါးတည်း ကိုးကွယ်ခြင်းဟူသော အစ္စလာမ် သာသနာတော်သည်သာ دين ဖြစ်သည်။

مذہب၊ ➡ (ဂိုဏ်းဂဏ) ဆိုသည်မှာ လူသားတို့ ယုံကြည်လျှောက်လှမ်းသော လမ်းစဉ်ကို **مذہب** ဟုခေါ်သည်။

➡ပညာရပ်ဆိုင်ရာ ဝေါဟာရအရ ယုံကြည်ချက်၊ နည်းစနစ်၊ ဘဝလျှောက် လှမ်းခြင်းဆိုင်ရာ လူသားတို့၏ ပညာရေးနယ်ပယ်၊ လက်တွေ့ဘဝ စသည့် အရာများနှင့် သက်ဆိုင်သည့် အတွေးအခေါ် ယုံကြည်များကို **مذہب** ဟု ခေါ် သည်။

## (၂၈) ဘာသာတရားနှင့် (مذہب) လမ်းစဉ်ကြား ကွာခြားချက်။

ဘာသာတရားသည် လမ်းစဉ်ထက်သာပိုကျယ်ပြန့်သည်။ ဘာသာတရားသည် အကွယ်မှကိစ္စရပ်များ၊ နောင်တမလွန်ကိစ္စရပ်များနှင့် ဖန်ဆင်းခံ၊ ဖန်ဆင်းရှင်နှင့် သက်ဆိုင်သည့် လူသား၏ယုံကြည်ချက်များအပြင် ဘဝလျှောက် လှမ်းခြင်းဆိုင်ရာ အတွေးအမြင် ယုံကြည်ချက်များအားလုံးကို ဘာသာတရား ဟုခေါ်သည်။ သို့သော်လမ်းစဉ်ဆိုသည်မှာ များသောအားဖြင့် ဘဝလျှောက် လှမ်းခြင်းနှင့်သက်ဆိုင်သော အတွေးအမြင်၊ ယုံကြည်ချက်များကို ခေါ်ဆိုသည်။

## 2 မျက်မှောက်ခေတ် ဘာသာတရားများ၏ အခြေအနေ။

**မျက်မှောက်ခေတ် ယုံကြည်ကိုးကွယ်နေကြသူများကို လေ့လာသုံးသပ်ကြည့်ပါက အဖွဲ့လေးဖွဲ့ကို တွေ့ရှိရပေမည်။**

❶ အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ပေါ် လျှောက်လှမ်း၍ ကောင်းရာညွှန်ကြား မကောင်းရာ မြစ်တားကာ အလ္လာဟ်အရှင်မြတ်ကို အီမာန်သက်ဝင် ယုံကြည်ပြီး ကိုယ်တော်မြတ်﴿ﷺ﴾၏ စွန္နသ်တော်နှင့် ကုန်အာန်ကျမ်းတော်မြတ် အမိန့်နာခံ၍ သာသနာကို စွဲမြဲစွာဆုပ်ကိုင်ကြသူများ။

❷ အစ္စလာမ်အမည်ခံ၍ အခြားသော မှားယွင်းသည့် ဂိုဏ်းဂဏများကို လက်ခံသူများနှင့် မှားယွင်းသော လမ်းစဉ်မူဝါဒများကို ကျင့်သုံးကြသူများ။

❸ အစ္စလာမ်သာသနာအပြင် အခြားသောသာသနာများနောက်သို့ လိုက်ကြသူများ။

❹ ဒိဟ္ရိများ။ (ဘာသာမဲ့များ)

## 3 မျက်မှောက်ခေတ်နှင့် မွတ်စ်လင်မ် တစ်ဦး၏တာဝန်။

မွတ်စ်လင်မ်တို့သည် မိမိတို့၏ သာသနာကို ကောင်းစွာသိနားလည်သူ ဖြစ်ရမည်။ ထို့နောက် မိမိပတ်ဝန်းကျင်၌ ဖြစ်ပျက်နေသည့်အရာများကိုလည်း ကောင်းစွာ သိရှိရပေမည်။ သို့မှသာ ကောင်းရာကို ဆုပ်ကိုင်၍ မကောင်းရာကို ကျဉ်ဖယ်နိုင်မည်ဖြစ်သည်။ ထို့ပြင် မိမိယုံကြည်ချက်အတွက် ထိန်းသိမ်းကာကွယ်သူတစ်ဦး ဖြစ်ရပေမည်။

မွတ်စ်လင်မ်တို့သည် မိမိသာသနာကိုကောင်းစွာသိနားလည်ပြီး မိမိ ပတ်ဝန်းကျင်ရှိ ဘာသာတရားများနှင့် ဂိုဏ်းဂဏများ၊ လမ်းစဉ်များကို အစ္စလာမ်သာသာဖြင့် မှတ်ကျောက်တင်၍ ရှေးယခင်သူတော်စင်ကြီးများ လျှောက်လှမ်းရာလမ်းစဉ်၊ ကိုယ်တော်မြတ်(ﷺ)၏ စွန္နသ်တော်နှင့် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ကို မှီငြမ်းကိုးကားကာ မှားသည်မှန်သည် သတ်မှတ် ရမည်။ ထို့နောက် အစ္စလာမ်သာသနာတော်မြတ်က ဆုံးဖြတ်သည့်အတိုင်း မိမိ အွမ္မသ်နှင့် သာသနာတော်ကို သိနားလည်၍ အဖျက်အမှောက်များမှ ကာကွယ် ရမည်။

## 4 ဘာသာတရားအကြောင်း တစေ့တစောင်း။

အလ္လာဟ်အရှင်မြတ်၏ သာသနာတော်နှင့် တစ်ပါးတည်းကိုးကွယ်ခြင်းသည် လူသား၏ မူလပထမသဘာဝတရားဖြစ်သည်။ ဤသည် အခြားသူတို့၏ "လူသားသည် အစကနဦး၌ တစ်ပါးတည်းကိုးကွယ်ခြင်းကို မသိရှိပေ။ ထို့ပြင် လူသားသည် မိမိတို့ပတ်ဝန်း ကျင်ရှိ ယင်းတို့ နှစ်သက်သောအရာများနှင့် ကြောက်ရွံ့စိုးရိမ်သည့်အရာများကို ခဝပ်ကိုးကွယ်ကြသည်။"ဆိုသည့် အတွေးအမြင်နှင့်ဆန့်ကျင်ဘက်ပင် ဖြစ်သည်။ ထို့ပြင် ယင်းအတွေးအခေါ်သည် မှားယွင်းသည် သာမက လုပ်ကြံလီဆယ်ထားသော အရာဖြစ်သည်။ ဧကန်စင်စစ် တုဖက်နှိုင်းယှဉ်ခြင်း၊ လမ်းလွဲလမ်းမှားခြင်းများသည် လူသားတို့ အလ္လာဟ်အရှင် တစ်ပါးတည်းအား ကိုးကွယ်ခြင်းမှ တိမ်းပါးသွားပြီးနောက် နှစ်ပေါင်းများစွာ ကျော်လွန်ပြီးမှသာလျှင် ဖြစ်ပေါ်လာခြင်းဖြစ်သည်။

ကုရ်အာန်ကျမ်းတော်မြတ်နှင့် တိကျမှန်ကန်သော ဟဒီးစ်တော်များ၌ အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို တစ်ပါးတည်းကိုးကွယ်သည့် ဗီဇရှင်များအဖြစ် ဖန်ဆင်းတော်မူထားကြောင်းနှင့် တုဖက်နှိုင်းယှဉ်ခြင်း၊ လမ်းလွဲလမ်းမှားခြင်းများသည် နှစ်ပေါင်းများစွာ ကျော်လွန်ပြီးနောက်ပိုင်းမှသာ ဖြစ်ပေါ်လာသော အရာများဖြစ်ကြောင်း ဖော်ပြထားသည်။ ထို့ပြင် လူသားသမိုင်း၌လည်း အွမ္မသ်တိုင်းတွင် အလ္လာဟ်

အရှင်တစ်ပါးကို ခဝပ်ကိုးကွယ်ခြင်းဘက် သို့ ဖိတ်ခေါ်၍ တုဖက်ခြင်းကို ရှောင်ရှားရန် တားမြစ်ခဲ့သည့် နဗီတမန်တော်အမြောက်အမြား ရှိခဲ့ပေသည်။ အာယသ်တော်၌ ဤသို့လာရှိသည်။ "စင်စစ်သော်ကား သာသနာဝင် အုပ်စုတိုင်း၌ပင် သတိပေးနှိုးဆော်သူတစ်ဦး ပွင့်ရောက်ခဲ့သည်သာ ဖြစ်၏" (၃၅-၂၄)

တစ်ပါးတည်းကိုးကွယ်ခြင်းသည် လူ့သဘာဝဗီဇဖြစ်ပြီး တုဖက်ခြင်းသည် နှောင်းပိုင်းခေတ်များရောက်ရှိလာမှသာ ပေါ်ပေါက်လာခြင်းဖြစ်ရာ ခေတ်သစ်ပညာရှင်များနှင့် အနောက်တိုင်းအတွေးအခေါ်ပညာရှင်များဆိုကြသည့် "လူသားတို့သည် ကနဦး၌ တုဖက်နှိုင်းယှဉ်ခြင်းနှင့် မိုက်မဲမှုတွင် ရှိနေပြီး နှောင်းပိုင်းခေတ်များ ရောက်မှသာလျှင် တိုးတက်ကာ တစ်ပါးတည်း ကိုးကွယ်ခြင်းဆီသို့ ရောက်ရှိလာကြသည်" ဆိုသည့် အတွေးအခေါ်နှင့် ပတ်သက်၍ ကျွန်ုပ်အံ့ဩမင်သက်စရာ အကြောင်းမရှိပေ။ အဘယ့်ကြောင့်ဆိုသော် ၎င်းတို့သည် တုဖက်နှိုင်းယှဉ်ကြသူများဖြစ်၍ ယင်းအတွေးအခေါ်ကို မည်သည့်ကောင်းကင်ကျမ်းဝဟီပေါ် အခြေခံခြင်းမရှိသကဲ့သို့ မည်သည့်ပညာရပ်ဆိုင်ရာ အထောက်အထားတစ်စုံတစ်ရာပေါ်၌လည်း အခြေခံထားခြင်းမရှိပေ။

# အခန်း(၂) ကမ္ဘာပေါ်ရှိဘာသာတရားကြီးများ



# ✡ ယဟူဒီဘာသာ ✡

## အဓိပ္ပာယ်ဖွင့်ဆိုချက်။

တမန်တော်မူဆာ(ﷺ)၏ အွမ္မသ်ဖြစ်သည့် ယဟူဒီများလိုက်နာကျင့်သုံးသည့် ဘာသာတရားမှာ ယဟူဒီဘာသာဖြစ်သည်။

## ယဟူဒီဘာသာ၏ မူရင်းဇစ်မြစ်။

ယဟူဒီတို့ မိမိဘာသာတရားကို ပြောင်းလွဲမှု မပြုခင် ယဟူဒီဘာသာဆိုသည်မှာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ တမန်တော်မူဆာ(ﷺ)ထံသို့ ချပေးသော ဘာသာတရားတစ်ခုဖြစ်သည်။

## အမည်ပေးရခြင်း၏ အကြောင်းအရင်း။

ဗနီအစ္စရာအီးလ်များဆင်းသက်သည့် တမန်တော်ယအ်ကူးဗ်(ﷺ)၏ သားဖြစ်သူ ယဟူဇာဘက်သို့ ဆက်နွယ်ပတ်သက်၍ ယင်းဘာသာဝင်များကို ယဟူဒီဟူ၍ ခေါ်ဆိုကြပေသည်။ ထို့နောက် အရဗ်တို့သည် ذال (ဇာ) ကို دال (ဒါ) ဖြစ် ပြောင်းလဲလိုက်သည့်အတွက်ကြောင့် ယဟူဒီဟူ၍ ဖြစ်သွားပေသည်။

## ယဟူဒီဘာသာ၏ ယုံကြည်ချက်များ။

① ယဟူဒီဘာသာဝင်များသည် မိမိဘာသာတရားကို မပြောင်းလဲမီ အလျှင် ယင်းဘာသာသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ တမန် တော်မူဆာ《ﷺ》ဆီသို့ ချပေးသော အလ္လာဟ်အရှင်တစ်ပါးတည်းကိုး ကွယ်သည့် သာသနာဖြစ်သည်။ ထို့နောက် ယင်းတို့သည် မိမိတို့ဘာ သာတရားထဲတွင် အလ္လာဟ်အရှင် ချပေးခြင်းမရှိသည့်အရာများကို ထည့်သွင်းပြောင်းလဲကာ နောက်ဆုံးတွင် တုဖက်နှိုင်းယှဉ်ခြင်း၊ အလ္လာဟ်အရှင်နှင့် အလ္လာဟ့်ရစူလ်ကိုပင် ရန်ငြိုးထားသော ဘာသာ တရားဖြစ်သွားပေသည်။

② ယဟူဒီတို့သည် တမန်တော်မူဆာ《ﷺ》ရှိစဉ်၌ပင် လမ်းလွဲလမ်းမှား မှုများကို စတင်ပြုခဲ့ကြပေသည်။ ထို့နောက် တမန်တော်မူဆာ《ﷺ》 အား “အသင်သည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်ကို အထင်အရှား ပြပါလေ” (၄-၁၅၃) ဟူ၍ တောင်းဆိုခဲ့သည်။ ထို့နောက် နွားပေါက်ပုံစံ ရုပ်ထု ပြုလုပ်၍ ကိုးကွယ်ကြပြီး နောက် တမန်တော်မူဆာကို ဤသို့ ပြောကြလေသည်။ “သို့ဖြစ်ပေရာ အသင် ကိုယ်တိုင် မိမိအရှင်မြတ်နှင့် တကွ သွားရောက်ပြီး အသင်တို့နှစ်ဦးသာလျှင် တိုက်ခိုက်ကြလေကုန်။ ကျွန်ုပ်တို့မူကား ဤနေရာ၌ပင် ထိုင်၍ နေကြကုန်အံ့” (၅-၂၄)

တမန်တော်မူဆာ《ﷺ》 ကွယ်လွန်ပြီးနောက်တွင် ယဟူဒီများသည် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ကို ပြောင်းလဲမှုများပြုလုပ်၍ သောင်ရာဟ်ကျမ်းကိုပါ ပြောင်းလဲပစ်ကြသည်။ ၎င်းတို့သည် “အုဇိုင်ရ်သည် အလ္လာဟ် အရှင်မြတ်၏ သားတော်ဖြစ်သည်” (၉-၃၀) “ငါတို့သည် အလ္လာဟ်အရှင်မြတ်၏ သားတော်များလည်းဖြစ်ကြသည်။ ထိုအရှင်မြတ်၏ အချစ်တော်များလည်း ဖြစ်ကြသည်” (၅-၁၈) ဟူ၍ ပြောဆိုကြသည်။

ယင်းယဟူဒီတို့သည် တမန်တော်မူဆာ《ﷺ》 ပေါ်သို့ ချပေးခံရသည့် ရှရီအသ်တရားတော်ကို ပြောင်းလဲပစ်ရုံသာမက သောင်ရာဟ်ကျမ်းစာသားများကိုပါ ပြောင်းလဲကြသည်။ ထို့ပြင် ၎င်းတို့သည် သလ်မူးဒ်အမည်ဆောင် မိမိတို့ ဘုန်းတော်ကြီးများ၏ အတွေးအမြင်များကို အလွန်ပင် အထွတ်အမြတ်ထား ကြသည်။ ဤသည် ယဟူဒီပညာရှင်များ၏ စိတ်အလိုအရ ကောက်နှုတ်ချက် များဖြစ်သည်။ ယင်းတို့သည် မိမိစိတ်အလိုကျ ယဟူဒီများအတွက် ဟရာမ်《တားမြစ်ထားသော》အရာများကို ဟလာလ်《ပြုပိုင်သောအရာများ》 အဖြစ်သတ်မှတ်၍ ဟလာလ်အရာများကို ဟရာမ်အဖြစ်သတ်မှတ်ကြသည်။

## ယဟူဒီတို့၏ မှားယွင်းသော ယုံကြည်ချက်။

အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မှားယွင်းသော ယုံကြည်ချက်ထားရှိခြင်း။

၎င်းတို့မှာ–

### ❶ ခဝပ်ကိုးကွယ်ရာ၌ အလ္လာဟ်အရှင်မြတ်နှင့် တုဖက်နှိုင်းယှဉ်မှုပြုခြင်း။

သို့ဖြစ်ပေရာ ၎င်းတို့သည် တမန်တော်မူဆာ﴾عليه السلام﴿ရှိနေသည့်အပြင် တမန်တော်ဟာရူးန်﴾عليه السلام﴿သည် ၎င်းတို့ကြားဝယ်ရှိပြီး တားမြစ်နေသည့်ကြားကပင် နွားပေါက်ရုပ်ထုကို ပြုလုပ်၍ ကိုးကွယ်မှုပြုကြသည်။ "ထို့နောက် ယင်းစာမိရီသည် ၎င်းတို့အဖို့ အသံထွက်သော နွားငယ်ကလေးတစ်ကောင်၏ ခန္ဓာကိုယ် အသွင်သဏ္ဌာန်တစ်ခုကို (သွန်းလောင်း) ထုတ်ယူလာခဲ့သည်။ (ထိုအခါ) ယင်း အမျိုးသားတို့က 'ဤသည်ပင် အသင်တို့၏ ကိုးကွယ်ရာအရှင်၊ မူစာ၏ ကိုး ကွယ်ရာအရှင်ဖြစ်သည်။ သို့သော် မူစာကား (မိမိ ကိုးကွယ်ရာအရှင်အား ဤမှာပင်) မေ့ထားခဲ့လေပြီး'ဟု (အချင်းချင်း) ပြောဆိုကြလေသည်။" (၂ဝ–၈၈)

ထို့ပြင် ယင်းတို့သည် ဘုန်းတော်ကြီးများကို အရှင်သခင်များအဖြစ် သတ်မှတ်၍ အထွတ်အမြတ်ထားကာ ၎င်းတို့၏ သင်္ချိုင်းဂူများပေါ်

တွင် ဝတ်ပြုရာများကို ဆောက်ကြသည်။ ဤသည်နှင့်ပတ်သက်၍ ကိုယ်တော်မြတ်《ﷺ》က မိမိအွမ္မသ်ကို သတိပေးတားမြစ်ခဲ့ပေသည်။ "ယဟူဒီနှင့် နက်စ္စရာနီ များအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ လအ်နသ် ကျရောက်ပါစေ။ ယင်းတို့သည် မိမိတို့ နဗီများ၏ ကဗရ်ပေါ်တွင် ဗလီ ဝတ်ကျောင်းတော်များ တည်ဆောက် ကြသည်။" 《မွတ်စ်လင်မ်ကျမ်း- ဟဒီးစ်နံပါတ် ၂၅၉》

## ❷ အလ္လာဟ်အရှင်မြတ်၌ သားရှိသည်ဟု စွပ်စွဲပြောဆိုခြင်း။

ဤသည်နှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းတော်မြတ်တွင် လာရှိသည်မှာ "စင်စစ်သော်ကား ယဟူဒီတို့က 'အုဇိုင်ရ်' သည် အလ္လာဟ်အရှင် မြတ်၏ သားတော်ဖြစ်သည်ဟူ၍ ပြောဆိုခဲ့ကြလေသည်။"ဟူ၍ ဖြစ်သည်။

## ❸ အလ္လာဟ်အရှင်မြတ်သည် မရှိဆင်းရဲသူများဖြစ်၍ မိမိတို့သည် ချမ်းသာကြွယ်ဝသူများဖြစ်သည်ဟု ဆိုကြခြင်း။

ဤကဲ့သို့ အလွန်ပင်ယုတ်ညံ့သည့် စကားရပ်ကို ထင်ရှားပြတ်သားစွာ လမ်းမှားနေသည့် သွေဖီငြင်းဆန်သူသာ ပြောဆိုပေမည်။ ကုရ်အာန်ကျမ်း တော်မြတ်၌ ဤသို့လာရှိသည်။ "အလ္လာဟ်အရှင်မြတ်သည် အကြင်သူတို့၏ ပြောဆိုသောစကားကို ဧကန်စင်စစ် ကြားတော်မူခဲ့လေပြီ။ ထိုသူတို့က 'အလ္လာဟ်အရှင်မြတ်သည် ဧကန်မလွဲ ဆင်းရဲတော်

မူသော အရှင်မြတ်ဖြစ် တော်၏။ သို့ရာတွင် အကျွန်ုပ်တို့မူကား ပစ္စည်းဥစ္စာကုံလုံကြွယ်ဝပေါများသူများပင် ဖြစ်ကုန်၏။'ဟု ပြောဆိုခဲ့ကြလေသည်။ "ငါအရှင်မြတ်သည် ထိုသူတို့၏ ဤသို့ပြောဆိုချက်နှင့်တကွ နဗီတမန်တော်များအား မတရားသဖြင့် သတ်ဖြတ်ခြင်းကိုပါ မုချအမှန် ရေးမှတ်တော် မူအံ့။" (၃-၁၈၁)

## ❹ အလ္လာဟ်အရှင်မြတ်သည် စေးနှဲတွန့်တိုသူဖြစ်သည်ဟု ပြောဆိုကြခြင်း။

ဤသို့ပြောဆိုရခြင်းမှာ ယင်းတို့သည် အလွန်ပင်စေးနှဲကြသောကြောင့်ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်တွင် ဤသို့လာရှိသည်။ "၎င်းပြင် ယဟူဒီတို့က 'အလ္လာဟ်အရှင်မြတ်၏ လက်သည် ဆုပ်ထားပြီးဖြစ်သည်'ဟု ပြောဆိုကြကုန်သည်။ ၎င်းတို့၏ လက်များသည်သာလျှင် ဆုပ်ကိုင်ထားပြီးဖြစ်ကြ၏။ စင်စစ် ထိုသူတို့သည် မိမိတို့၏ ပြောဆိုမှုကြောင့် (အလ္လာဟ်အရှင် မြတ်၏) ကရုဏာတော်မှ ကင်းဝေး ကြရလေပြီ။ (အလ္လာဟ်အရှင်၏ လက်တော်များသည်) အလျှင်း (ဆုပ်ထားပြီး) မဟုတ်ပေ။ စင်စစ်မှာမူကား ထိုအရှင်မြတ်၏ လက်တော် နှစ်ဖက်စလုံးပင် ပြန့်လျက် ရှိကုန်၏။ ထိုအရှင်မြတ်သည် မိမိ အလိုတော်အတိုင်း သုံးစွဲလျက်ရှိတော်မူ၏။ (၅-၆၄)

## ❺ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်နှင့် မြေပထဝီပြင်ကို ဖန်ဆင်းရခြင်းကြောင့် မောပန်းသည်ဟု ပြောဆိုကြခြင်း။

အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော ကိစ္စရပ်များမှ ကင်းစင်တော်မူလေသည်။ ထို့နောက် အရှင်မြတ်သည် ယင်းတို့ကို ဤသို့ ပြန်လည် ဖြေကြားထားပေသည်။ "ထိုမှတစ်ပါး စင်စစ်မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ထိုမိုးများနှင့်မြေကြားရှိ အရာများကိုလည်းကောင်း၊ ခြောက်ရက်အတွင်း ဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း ငါအရှင်မြတ်၌ ပင်ပန်းနွမ်းနယ်မှုဟူ၍ အလျင်းသက်ရောက်ခဲ့သည်မရှိ ချေ။" (၅၀-၃၈)

## ❻ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်များ၊ ဝဟီများနှင့်ပတ်သက်၍ ၎င်းတို့၏ မှားယွင်းသော အယူဝါဒများထားရှိကြခြင်း။

၎င်းအနက်မှ "အလ္လာဟ်အရှင်မြတ်သည် မည်သည့်လူသားတစ်ဦးထံပေါ်၌ပင် ဝဟီ ချမှတ်ပေးခြင်းမရှိ" ဟူ၍ ယုံကြပေသည်။

## ❼ နဗီသည် ၎င်းတို့ ယဟူဒီများအနက်မှ ဖြစ်ရမည်သာမက ၎င်းတို့ ရွေးချယ်သည့်သူသာလျှင် ဖြစ်ရမည်ဟု ယုံကြည်ထားရှိခြင်း။

ထို့ကြောင့်ပင် ၎င်းတို့ စိတ်အလိုကျမဟုတ်သည့် အလ္လာဟ်အရှင်မြတ် ဘက်တော်မှ နဗီတစ်ပါးပါးလာရှိပါက ယင်းနဗီကို ဒုက္ခပေးခြင်း၊ နှင်ထုတ်ခြင်း၊ သတ်ဖြတ်ခြင်းများ ပြုကြပေသည်။

**❽ ကိုယ်တော်မြတ်《ﷺ》 နဗီတမန်တော်ဖြစ်တော်မူခြင်းအား ငြင်းဆိုကြခြင်း။**

ၚင်းတို့သည် ကိုယ်တော်မြတ်《ﷺ》က မှန်ကန်သော အလ္လာဟ့် ရစူလ်ဖြစ် တော်မူကြောင်းသိပါလျက် ကိုယ်တော်မြတ်《ﷺ》ကို ငြင်းဆိုကြသည်။

**❾ ယဟူဒီများသည် အခြားသောသူများကို မနာလိုမုန်းတီးရုံသာမက အချို့သော ကောင်းကင်တမန်တော်များကိုပါ မုန်းတီးကြခြင်း။**

သို့ဖြစ်ပေရာ ဟဇရသ်ဂျိဗ္ဗရာအီးလ်နှင့် မီကာအီးလ်《عليه السلام》တို့သည် ယင်းတို့၏ ရန်သူများဖြစ်သည်ဟု ပြောဆိုကြသည်။

**❿ ယဟူဒီများသာလျှင် ဂျန္နသ်ဝင်ရောက်ရမည်ဖြစ်ပြီး ယင်းတို့အနက်မှ အပြစ်ကျူးလွန်သူသည်လည်း ရက်အနည်းငယ်သာ ဂျဟန္နမ်ကျရောက်မည်ဖြစ်သည်ဟု ဆိုကြခြင်း။**

## ယဟူဒီဘာသာ၏ သမိုင်းအကျဉ်း။

ယဟူဒီများသည် စင်စစ် ဟဇရသ်ယအ်ကူးဗ်《عليه السلام》 သား၊ မြေး၊ မြစ်များ ဖြစ်ကြသည်။ ဟဇရသ်ယအ်ကူးဗ်《عليه السلام》တွင် သားတော် ဆယ့်နှစ်ပါးရှိသည်။ ထိုသားတော် ဆယ့်နှစ်ပါးမှ ယဟူဒီတို့ ဆင်းသက်လာခြင်းဖြစ်သည်။ ယင်းတို့သည် **ပါလက်စတိုင်းဒေသ၌ ခေတ္တနေထိုင်ကြပြီး** တမန်တော်ယူစွဖ်《عليه السلام》 အီဂျစ်နိုင်ငံကို အုပ်ချုပ်စဉ်၌ ယင်းနိုင်ငံသို့

ပြောင်းရွှေ့အခြေချ နေထိုင်စေခဲ့သည်။ သို့ဖြစ်ပေရာ ယင်းနိုင်ငံ၌ ၎င်းတို့လူဦးရေများပြားလာပြီး အကျိုးစီးပွားများလည်း များစွာဖြစ်ထွန်းလာပေသည်။ ထို့နောက် ရာစုနှစ် ﴿၃﴾ စုကျော်နေထိုင်ပြီးသည့်နောက်တွင် ၎င်းတို့ကို အီဂျစ်၏ အုပ်ချုပ်သူ ဖိရ်အောင်ဘုရင်များက လူမျိုးတုန်းသတ်ဖြတ်မှုများနှင့် ကျွန်ပြုလုပ်လေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်က ယင်းတို့နှင့် ဖိရ်အောင်ထံသို့ တမန်တော်မူစာ﴿ﷺ﴾ကို စေလွှတ်တော်မူခဲ့သည်။ ထို့ပြင် ၎င်းတို့ကို ဂုဏ်ပေးရန်နှင့် ဖိရ်အောင်လက်မှ ကယ်တင်ရန် တမန်တော်မူစာ﴿ﷺ﴾၏ ဦးဆောင်ပြုမှုဖြင့် အောင်နိုင်မှုကို ချီး မြှင့်ခဲ့လေသည်။ သို့သော် ယင်းတို့သည် သွေဖီငြင်းဆန်ခြင်းနှင့် သေးသိမ်အောက်တန်းကျမှုကိုသာ ရွေးချယ်ခဲ့ကြသည်။ သို့ဖြစ်ပေရာ မြင့်မြတ်သော ပါလက်စတိုင်းဒေကို အောင်နိုင်သူများအဖြစ် ဝင်ရောက်ရန် အမိန့်ပေးခြင်းခံရသောအခါ တမန်တော်မူစာ﴿ﷺ﴾ကို ပုံစံမျိုးစုံဖြင့် ဒုက္ခပေးကြသည်။ ထို့နောက် ပါလက်စတိုင်းဒေသသို့ သွားရာလမ်းတွင် ရုပ်ထု ကိုးကွယ်နေသောသူများကို တွေ့ရှိပြီးနောက် တမန်တော်မူစာ ﴿ﷺ﴾ အား ဤသို့တောင်းခံလေသည်။ **“**အို- (နဗီတမန်တော်) မူစာ၊ အသင်သည် ကျွနုပ်တို့အဖို့လည်း ၎င်းတို့၌ရှိကုန်သော ကိုးကွယ်ရာများကဲ့သို့ ကိုးကွယ်ရာ တစ်ဆူကို ပြုလုပ်၍ ပေးပါလော့ဟု ပြောဆိုကြလေသည်။**”** (၇-၁၃၈)

## ယဟူဒီတို့၏ ကိုယ်ကျင့်တရားများ။

❶ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးသည့် ဝဟီဖြစ်လင့်ကစား အမှန်တရားနှင့် ပတ်သက်၍ ဖုံးကွယ်ကြလေသည်။ ထို့နောက် မိမိတို့ မှားယွင်းသော အယူအဆများအတွက် အကျိုးဖြစ်နေသ၍ ထိုသို့ဖုံးကွယ်ခြင်းကို ရှောင်ကျဉ်ခြင်းမရှိပေ။ **“အို-အထက်ကျမ်းဂန် ရရှိသူအပေါင်းတို့၊ အဘယ့်ကြောင့် အသင်တို့သည် အမှန်ကို အမှားနှင့် ရောနှောရှုပ်ထွေးစေကြပါသနည်း၊ ၎င်းပြင် (အဘယ်ကြောင့်) အမှန်ကို ထိမ်ချန်ထားကြပါသနည်း၊ အမှန်သော်ကား အသင်တို့သည် မိမိတို့ကိုယ်တိုင် သိမြင်နားလည်ကြကုန်၏။”** (၃-၇၁)

❷ လှည့်ဖြားခြင်း၊ သစ္စာမဲ့ခြင်း။ ယင်းတို့သည် မိုက်မဲစွာ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မူစာ(عليه السلام)ကို လှည့်ဖြားခဲ့ကြသည်။ ထို့နောက် တမန်တော်မူစာ(عليه السلام)သခင်နောက်တွင် လာရှိသည့် နဗီများကိုလည်း လိမ်လည်လှည့်ဖြားခဲ့ကြသည်။ ၎င်းနောက် တမန်တော်အီစာ(عليه السلام)ကိုလည်း လှည့်ဖြားသကဲ့သို့ ကိုယ်တော်မြတ်(ﷺ)ကိုပါ ကတိဖျက်ခြင်း၊ မွတ်ရှရိက်များနှင့် မဟာမိတ်ဖွဲ့ခြင်း၊ ကိုယ်တော်မြတ်ကို အဆုံးစီရင်ရန် ကြံစည်ခြင်း အစရှိသည့် ပုံစံအမျိုးမျိုးဖြင့် လှည့်ဖြားခဲ့ကြသည်။

❸ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ကရုဏာအနေဖြင့် ချပေးသည့် ဝဟီနှင့် လမ်းမှန်တရား၌ပင် လူတို့ကို မနာလို အမုန်းတရားများထားရှိကြပေသည်။ “စင်စစ်မှာမူကား ကျမ်းဂန်ရရှိကြကုန်သော (ယဟူဒီဘာသာဝင်များ)အနက်မှ မြောက်မြားစွာသောသူတို့သည်၊ ထင်ရှားခဲ့ပြီးအမှန်သည် ယင်းသူတို့အဖို့နောက်သော်မှပင် မိမိတို့စိတ်အတွင်း၌ ထားရှိကြကုန်သော မနာလိုဝန်တိုပြုစုခြင်းသဘောများကြောင့် အသင်တို့အား သမ္မာဒိဋ္ဌိဘာဝသို့ပြန်လည် ပို့ဆောင်ကြသည်။” (၂-၁၀၉)

❹ အဖျက်အမှောက်လုပ်ငန်းများပြုလုပ်ခြင်းနှင့် စစ်မီးတောက်လောင်အောင်ပြုခြင်း။

❺ အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဠ်တော်ကို အပြောင်းအလဲများပြုခြင်းနှင့် အရှင်မြတ်အပေါ် မုသားပြောဆိုခြင်း။

❻ အရိုသေကင်းမဲ့ခြင်းနှင့် ရိုင်းပြစွာဆက်ဆံခြင်း။ လူတို့အား အထင်သေးသည့်အတွက်ကြောင့် ဤလုပ်ရပ်များ ပေါ်ပေါက်လာခြင်းဖြစ်သည်။ သို့သာမက နဗီတမန်တော်များကိုပါ အထင်သေးခြင်းလျှောင်ပြောင်သရော်ခြင်းများ ပြုကြပေသည်။ ယင်းတို့သည် ကိုယ်တော်မြတ် ﴾ﷺ﴿ နားမှ ဖြတ်သွားတိုင်း ﴾اَلسَّامُ عَلَيْكَ﴿ အသင့်ပေါ်သေခြင်းတရားကျရောက်ပါစေဟူ၍ ပြောဆိုကြသည်။ (ဗိုခါရီကျမ်း- ဟဒီးစ်နံပါတ် ၁၅၈၃)

❼ အခြားသူများအား အထင်သေးခြင်း။ ၎င်းတို့က အလ္လာဟ်အရှင်မြတ်၏ အရွေးချယ်ခံပုဂ္ဂိုလ်များ၊ အချစ်တော်များဖြစ်သည်ဟု ကြွေးကြော်ကြပြီး ယင်းတို့သည်သာ ဂျန္နသ်ကို ဝင်ရောက်ရမည့်သူများ ဖြစ်သည်ဟု ယုံကြည်ထားကြပေသည်။ ယင်းတို့အပြင်အခြားသူများကို အညတရများဟု မှတ်ယူကာ ယင်းတို့၏ ဥစ္စာပစ္စည်းများနှင့် အသက်သွေးချွေးများကို ကျူးကျော်ပိုင်သည့်အရာဟူ၍ ယုံကြည်ကြပေသည်။ သို့သာမက တိရစ္ဆာန်များအလား ဆက်ဆံသမှုပြုကြသည်။ **"**စာပေမတတ်ကျွမ်းသောသူများ (ဝါ) ကျမ်းဂန်မရသော သူများနှင့်စပ်လျဉ်း၍ကျွန်ုပ်တို့အပေါ်၌ (ဘာသာတရားအရ အပြစ်ပေးသင့်ရန်) နည်းလမ်းမရှိ**"** (၃- ၇၅)

❽ နှလုံးသားများ မာကျောခက်ထန်ကြခြင်း။ ဤသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ၎င်းတို့ကို အရေး ယူခြင်းတစ်မျိုးပင် ဖြစ်သည်။

❾ လောကီရေးရာများနှင့်ပတ်သက်၍ လောဘရမ္မက်အလွန်ကြီးမားခြင်း။

❿ မွတ်စ်လင်မ်များနှင့်ပတ်သက်၍ ရန်ငြိုးထားကာ ကြံစည်မှုများပြုလုပ်ခြင်း။

## အစ္စလာမ့်သမိုင်းအတွင်းမှ ယဟူဒီတို့ဇာတ်ကြောင်း။

ယဟူဒီများသည် အစ္စလာမ်သာသနာတော်နှင့် ကိုယ်တော်မြတ်﴾ﷺ﴿ကို ဖျက်ဆီး၍ မရသောအခါ မွတ်စ်လင်မ်များနှင့်ပတ်သက်၍ ကြံစည်မှုများ ပြုလုပ်လေသည်။ ထို့နောက် အစ္စလာမ့်သမိုင်းတွင် အကွဲအလွဲ ဂိုဏ်းဂဏများ ပေါ်ထွက်လာရေးတွင် အပတ်တကုတ်ကြိုးစားလုပ်ဆောင်ကြသည်။ သို့ဖြစ်ပေရာ ယင်းတို့သည် မွတ်စ်လင်မ်များကြား၌ သွေးခွဲခြင်းများနှင့် အကီဒဟ် ယုံကြည်ချက်များ ပျက်ပြားအောင် ဆောင်ရွက်ကြပေသည်။ သုတေသီများ၏ အဆိုအရ ရှီအာ၊ ရာဖိဒ္ဒီများကို စတင်မျိုးစေ့ချခဲ့သူမှာ ယင်းတို့ပင် ဖြစ်ပေသည်။ ထို့နောက် အစ္စလာမ့်ယုံကြည်ချက်မှ တိမ်းပါးသွားသော ဂိုဏ်းဂဏများတွင်လည်း ယင်းတို့၏ ပါဝင်ပတ် သက်မှုများ ရှိပေသည်။ ဥပမာ–

**မိုအ်သဇိလာဟ်၊ ဂျဟ်မီယဟ်၊ဘာသွိနီယဟ်၊**
**အစ္စမာအီလီယဟ်။**

ယင်းတို့သည် ဘာသွိနီယဟ်ဂိုဏ်းဝင် ဖာသွေမဟ်နိုင်ငံတော်ကို တည်ထောင်ရာတွင် အဓိကကူညီပေးခဲ့သူများဖြစ်သည်။ ယင်းနိုင်ငံတော် တည်မြဲလာသည့်အခါတွင် ၎င်းတို့သည် နိုင်ငံတော်၏ ဂုဏ်ပြုခံ

များအဖြစ် နိုင်ငံအတွင်း မိမိတို့၏ ရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ကြပေသည်။ သို့ဖြစ်ပေရာ ကဗရ်နှင့်သက်ဆိုင်သည့် ဗစ်ဒ်အသ်များ၊ စူဖီလမ်းစဉ်များ အစရှိသဖြင့်အရာများကို ဖြန့်ကျက်ကြသည်။ ထို့နောက် အခြားအခြားသော ဂိုဏ်းများပေါ်ပေါက်လာသောအခါ ၎င်းတို့သည် ယင်းဂိုဏ်းများကို အထောက်အကူပြု ကူညီပေးခဲ့သည်။

## ယဟူဒီတို့၏ ရည်မှန်းချက်ပန်းတိုင်များ။

➯ အစ္စရေးနိုင်ငံတော် တည်မြဲရေးနှင့် ဂျေရုစလင်သည် ယင်းတို့၏ စုရပ်စင်တာဖြစ်ရှိရေး။ ယင်းစင်တာမှ တစ်ကမ္ဘာလုံးကို ချုပ်ကိုင်နိုင်ရေး။

➯ ကမ္ဘာ့အဝှမ်းရှိ မျိုးနွယ်များကို ချုပ်ကိုင်၍ ယင်းတို့ လိုအပ်သည့်အချိန်၌ အသုံးချနိုင်ရေး။ ထို့ပြင် ယင်းမျိုးနွယ်များကို ၎င်းတို့အလိုရှိက အသုံးချပြီး အလိုမရှိက ဖျက်ဆီးပစ်ရေး။

➯ မွတ်စ်လင်မ်များကို အမြစ်ဖြတ် ချေမှုန်းရေး။ ဤသည် ယင်းတို့၏ အဓိက ရည်ရွယ်ချက်ဖြစ်သည်။ မွတ်စ်လင်မ်များသည် မိမိတို့သာသနာကို စွဲမြဲစွာဆုပ်ကိုင်ပါက ယင်းတို့၏ အဖျက်အမှောက်လုပ်ငန်းများကို အမြစ်ဖြတ်နိုင်သည့်အတွက်ကြောင့် ယင်းတို့၏ အဓိကရည်ရွယ်ချက်မှာ မွတ်စ်လင်မ်များကို အဆုံးသတ်နိုင်ရေးဖြစ်သည်။

## ယဟူဒီနှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်ပညတ်ချက်။

ယဟူဒီများသည် အစ္စလာမ့်အမိန့်အရ ကာဖိရ်များသာဖြစ်သည်။ ယင်းတို့သည် မွတ်စ်လင်မ်များကြားတွင် သေးသိမ်သူများအဖြစ်နှင့်နေ ထိုင်ခွင့်ရှိသည်။ ဂျဇီရသွလ်အရဗ်ခေါ် အရဗ်ကျွန်းစွယ်များတွင် ယင်းတို့ နေထိုင်ခွင့်မရှိပေ။ အခြားအခြားသော အစ္စလာမ့်နိုင်ငံများ၌မူ ဂျစ်ဇ်ယာခေါ် **(အခွန်)** ပေး၍ နေထိုင်ခွင့်ရှိသည်။ ဤအတိုင်းပင် ဟဇရသ်အုမရ်နှင့် မွတ်စ်လင်မ်များက ကျင့်သုံးခဲ့ပေသည်။ ထို့နောက် ယင်းတို့ထံပါးမှ အကူအညီရယူခြင်း၊ မွတ်စ်လင်မ်အရေးကိစ္စများနှင့်ပတ်သက်၍ အရေးကြီးသည့် တာဝန်များကို အပ်နှံခြင်းမပြုရသကဲ့သို့ ယင်းတို့နှင့်မဟာမိတ်ဖွဲ့ခြင်း၊ အပေါင်းအသင်းပြုခြင်းများ မပြုပိုင်ပေ။


ဇီယွန်ဝါဒ
(zionism)
အဓိပ္ပာယ်ဖွင့်ဆိုချက်
ဖြစ်ပေါ်လာပုံသမိုင်း
ရည်ရွယ်ချက်များ

## ✡ကဏ္ဍခွဲ (၂) ဇီယွန်ဝါဒ (Zionism)✡

### အဓိပ္ပာယ်ဖွင့်ဆိုချက်။

ယဟူဒီနိုင်ငံတော်၏ အုပ်ချုပ်မှုအောက်မှ ကမ္ဘာတစ်ဝှမ်းကို ချုပ်ကိုင်နိုင်ရေး၊ အစ္စရေးနိုင်ငံတော် တည်တန့်ခိုင်မြဲရေး၊ ဟဇရသ်စိုလိုင်မာန်၏ ဝတ်ကျောင်းတော် တည်ဆောက်ရေးနှင့် ယဟူဒီတို့၏ ဂုဏ်အရှိန်အဝါ လွှမ်းမိုးရေးတို့ကို အဓိကအကောင်အထည်ဖော် ကြိုးပမ်းသည့်အဖွဲ့အား ဇီယွန်ဝါဒီများဟု ခေါ်ကြပေသည်။

### ဖြစ်ပေါ်လာပုံသမိုင်း။

ဇီယွန်ဝါဒသည် ခေတ်အဆက်ဆက်မှ တမန်တော် အီစာ﴿عليه السلام﴾မပွင့်ပေါ်မီအလျှင်တည်းကပင် တည်ရှိသည့်အဖွဲ့အစည်းတစ်ခု ဖြစ်သည်။ ယင်းအဖွဲ့၏ ပထမခြေလှမ်းမှာ ယဟူဒီတို့ ပါလက်စတိုင်းဒေသသို့ စုရုံးရေး၊ ဟဇရသ်စိုလိုင်မာန်၏ ဝတ်ကျောင်းတော်တည်ဆောက်ရေး၊ အစ္စရေးနိုင်ငံတော်တည်ထောင်ရေးနှင့် အခြားသော လူသားမျိုးနွယ်များနှင့်ပတ်သက်၍ လျှို့ဝှက်ကြံစည်မှု ပြုရေးဖြစ်သည်။

မျက်မှောက်ခေတ် ဇီယွန်ဝါဒီမှာ ယဟူဒီတို့၏ ရမ္မက်ကို အမြတ်ထုတ်ကာ နပိုလီယံ၏ ဖိတ်ခေါ်မှုဖြင့် **၁၈၀၆** ခုနှစ်၌ ကျင်းပပြုလုပ်သည့် ယဟူဒီအစုအဝေးမှ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ ထို့နောက် 《**Herzl**》 ၏ လှုပ်ရှားမှုဖြင့် **၁၈၉၇** ခုနှစ်တွင် ဆွစ်ဇာလန်၌ ကျင်းပပြုလုပ်သည့် ယဟူဒီများညီလာခံနှင့် ယဟူဒီပုပ်ရဟန်းမင်းကြီးများ တစ်ညီတစ်ညွတ်တည်း ကမ္ဘာတစ်ဝန်းကို ယဟူဒီတို့ လွှမ်းမိုးချုပ်ကိုင်နိုင်ရေးအတွက် အဖွဲ့အစည်းဖွဲ့ခဲ့သည်။ ယင်းအဖွဲ့သည် မျက်မှောက်ခေတ် ဇီယွန်ဝါဒီများပင် ဖြစ်သည်။

**ရည်ရွယ်ချက်များ။**

① ယဟူဒီများကြား၌ မျိုးချစ်စိတ်ဓာတ် နိုးကြားရေး။

② ယဟူဒီများသည် မိမိသာသနာ့အဆုံးအမများကို စွဲမြဲစွာ ဆုပ်ကိုင်ရေး။

③ ယဟူဒီများကြား၌ သာသနာ့ချစ်စိတ်နိုးကြားရေး။

## ➯ နိုင်ငံရေးဆိုင်ရာ ၎င်းတို့၏ ရည်ရွယ်ချက်များ။

❶ ပါလက်စတိုင်းဒေသတွင်း ယဟူဒီများသာ နေထိုင်ရေး။ ယင်းအစီအစဉ်ဖြစ်မြောက်ရေးတွက် ဒေသအသီးသီးရှိ ယဟူဒီများကို ပါလက်စတိုင်းဒေသသို့ ရွှေ့ပြောင်းနေထိုင်ရန် လှုံ့ဆော်ကြခြင်း။

❷ ကမ္ဘာ့အသိအမှတ်ပြု အစ္စရေးနိုင်ငံတော် တည်ထောင်နိုင်ရေး။

❸ ယဟူဒီတို့၏ ကမ္ဘာလုံးဆိုင်ရာ စီးပွားရေးနှင့် နိုင်ငံရေး အစီအစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်ရေး။ ယင်းတို့၏ အစီအစဉ်အများ အကောင်အထည်ဖော်ရေးတွင် အထောက်အကူဖြစ်စေရန် မီဒီယာများမှ စီစဉ်ကာ ဝါဒဖြန့်ခြင်း။

❹ ယဟူဒီတို့၏ ကြိုးပမ်းမှုများသည် ခေါင်းစဉ်တစ်ခုတည်းအောက်၌ စနစ်တကျ တည်ရှိရေး။

# ✞ခရစ်ယာန် ဘာသာ ✞Christianity ✞

အဓိပ္ပာယ်ဖွင့်ဆိုချက်။

ခရစ်ယာန်ဘာသာ၏ မူရင်းဇစ်မြစ်။

ခရစ်ယာန်ဘာသာ ဖြစ်ပေါ်လာသမိုင်း။

ခရစ်ယာန်တို့၏ ယဟူဒီများနှင့် ချိတ်ဆက်ထားပုံ။

ကောင်းကင်ကျကျမ်းရ ပုဂ္ဂိုလ်များ။

ကောင်းကင်ကျကျမ်းရ ပုဂ္ဂိုလ်များနှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်။

ခေတ်အဆက်ဆက် ခရစ်ယာန်ဘာသာ၏ သမိုင်းနှင့် မှားယွင်းသောယုံကြည်ချက် စတင်ဝင်ရောက်လာပုံ။

ခရစ်ယာန်ဘာသာ၏ ယုံကြည်ချက်များ။

ခရစ်ယာန်ဘာသာ၏ ယုံကြည်ချက်များ။

အစ္စလာမ့်သမိုင်းအတွင်းမှ ခရစ်ယာန်တို့ ဇာတ်ကြောင်း။

ခရစ်ယာန်တို့၏ အဓိက ဂိုဏ်းကွဲများ။

မျက်မှောက်ခေတ် ခရစ်ယာန်တို့နေထိုင်ရာ နိုင်ငံများနှင့် ဒေသများ။

မျက်မှောက်ခေတ် ခရစ်ယာန်တို့၏ လှုပ်ရှားမှုများ။

# ✞ခရစ်ယာန် ဘာသာ✞Christianity ✞

## အဓိပ္ပာယ်ဖွင့်ဆိုချက်။

ခရစ်ယာန်ဘာသာဆိုသည်မှာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ တမန်တော်အီစာ(عليه السلام)ထံသို့ ချပေးသည့် ဘာသာဖြစ်သည်။ ယင်းဘာသာ၏ ကောင်းကင်ကျမ်းမှာ အင်ဂျီလ်ကျမ်းဖြစ်သည်။

## ခရစ်ယာန်ဘာသာ၏ မူရင်းဇစ်မြစ်။

ခရစ်ယာန်ဘာသာသည် စင်စစ်သော်မူကား အလ္လာဟ်အရှင့်ဘက်တော်မှ ချပေးသော ဘာသာဖြစ်သည်။ ထို့နောက် ယင်းဘာသာသည် အစ္စလာမ်သာသနာတော်ဖြင့် ပလပ်ခံရသော ဘာသာတစ်ခုလည်း ဖြစ်ပေသည်။

## ခရစ်ယာန်ဘာသာ ဖြစ်ပေါ်လာပုံသမိုင်း။

ခရစ်ယာန်များသည်လည်း ယဟူဒီတို့အနက်မှ ဆင်းသက်လာခြင်းပင်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် တမန်တော်အီစာ(عليه السلام)သည် တမန်တော်မူစာ(عليه السلام)၏ ရှရီအသ်ကို တစ်ဖန်ဆန်းသစ်အောင်ပြုရေးအတွက် စေလွှတ်ခြင်းခံသူဖြစ်သည်။ ထို့ပြင် ယဟူဒီများက မိမိတို့

သာသနာအတွင်း အပြောင်းအလဲများ ပြုထားသည်ကို ပြန်လည်တည့်မတ်ရေးနှင့် ယင်းတို့အပေါ်၌ ဟရာမ်ပြုခံထားရသည့် အချို့သောကောင်းခြင်းတရားများကို ဟလာလ်ပြုပေးရန်အတွက် စေလွှတ်ခြင်းခံရသည်။ ဤသည်နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က မိမိကျမ်းဂန်တွင် ဤသို့အမိန့်ရှိတော်မူထားပေသည်။ “ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ယင်း(သားတော်)အား ကျမ်းဂန်ကိုလည်းကောင်း၊ ဉာဏ်ပညာအမြော်အမြင်ကိုလည်းကောင်း၊ 'တော်ရာတ်' ကျမ်းမြတ်ကိုလည်းကောင်း၊ **'အင်န်ဂျီလ်'** ကျမ်းမြတ်ကိုလည်းကောင်း သင်ကြားပြသတော်မူလတ္တံ့။ ထို့ပြင်တဝ (ယင်းသားတော်)အား အစ္စရာအီလီ မျိုးနွယ်အပေါင်းတို့ထံသို့ ရစူလ်တမန်တော်အဖြစ် စေလွှတ်တော်မူအံ့။ (ထိုအခါယင်း သားတော်က အစ္စရာအီလီမျိုးနွယ်တို့အား ဤသို့ပြောကြားအံ့)။ '(အို– အချင်းတို့) အကျွန်ုပ်သည် ဧကန်မုချ အသင်တို့ထံသို့ အသင်တို့၏အရှင်မြတ်ထံတော်မှ သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကိုအမှန်ပင်ဆောင်ယူခဲ့ပါသည်။ အကျွန်ုပ်သည် မုချဧကန် အသင်တို့ (ယုံကြည်အံ့သောငှာ) ရွှံ့မြေဖြင့် ငှက်တိရစ္ဆာန်၏ ပုံသဏ္ဌာန်အတွင်းသို့ မန်းမှုတ်မည်၊ ထိုအခါ ထိုငှက်ရုပ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် (အသက်ရှင်၍ပျံသန်းနိုင်သော ပကတိ) ငှက်တိရစ္ဆာန် ဖြစ်လာအံ့။ ၎င်းပြင် အကျွန်ုပ်သည် အမိဝမ်းတွင်းမှ စက္ခုအလင်းမရရှိခဲ့သူကိုလည်းကောင်း၊ (ခရုသင်းစသော) ကုဋ္ဌနူနာ စွဲကပ်သူကိုလည်းကောင်း၊ ရောဂါဘယ ပျောက်ကင်း(ပြကတေ့ လူကောင်းများဖြစ်လာ) နိုင်စေအံ့။ ထို

နည်းတူစွာ အကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် သူသေများကိုလည်း ရှင်စေနိုင်အံ့။ ထိုမှတစ်ပါးတုံ အကျွန်ုပ်သည် အသင်တို့ မိမိတို့အိမ်များတွင် စားသုံးခဲ့သော အရာများကိုလည်းကောင်း၊ အသင်တို့ (မိမိတို့ အိမ်များ၌) သိမ်းဆည်းသိုမှီထားခဲ့သော အရာများကိုလည်းကောင်း၊ အသင်တို့အား ထုတ်ဖော်ပြောကြားနိုင်အံ့။ အကယ်၍သာ အသင်တို့သည် ယုံကြည်သူများဖြစ်ကြပါမူ မလွဲကေန် ဤအချက်၌ အသင်တို့အဖို့အရာ လုံလောက်စွာသော သက်သေလက္ခဏာတန်ခိုးပြဋ္ဌိဟာ မုချရှိပေသည်။ ထိုပြင် (အို-အချင်းတို့) အကျွန်ုပ်သည် မိမိအလျင်ရှိ နှင့်ပြီးဖြစ်သော တော်ရာတ်ကျမ်းကို ထောက်ခံအတည်ပြုသူ အဖြစ်လည်းကောင်း၊ အသင်တို့အဖို့ရာ (နဗီတမန်တော်မူစာ (အလိုင်ဟစ္စလာမ်၏ ပဋိပတ်ကျင့်စဉ်၌) 'ဟရာမ်' ဟူ၍ မြစ်တားထားသော အရာများအနက်မှ အချို့ကို 'ဟလာလ်' ဟူ၍ ခွင့်ပြုအံ့သောငှာလည်းကောင်း (ပွင့်ခဲ့သည်၊) ထို့ပြင် အကျွန်ုပ်သည် အသင်တို့ထံသို့ အသင်တို့၏ အရှင်မြတ် အထံတော်မှပင် (လုံလောက်စွာသော) သက်သေလက္ခဏာ တန်ခိုးပြဋ္ဌိဟာကိုလည်း ဆောင်ယူခဲ့သည်။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြကုန်၊ ၎င်းပြင် အကျွန်ုပ်ဟောပြောသော ဓမ္မဒေသနာများကိုလည်း (တသဝေမတိမ်း) လိုက်နာဆောင်ရွက်ကြကုန်။ (၃- ၄၈ မှ ၅၀ ထိ )

## ခရစ်ယာန်တို့၏ ယဟူဒီများနှင့် ချိတ်ဆက်ထားပုံ။

ခရစ်ယာန်ဘာသာသည် ယဟူဒီဘာသာမှ ဆင်းသက်လာသော ဘာသာတစ်ခုဖြစ်သည်။ ထို့ပြင် ယင်းဘာသာတရားသည် ယဟူဒီဘာသာတရားကို ဖြည့်စွက်ပေးသော သာသနာပင်ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် အထက်ဖော်ပြခဲ့သည့်အတိုင်း တမန်တော်အီစာ﴾عليه السلام﴿ သည် ယဟူဒီတို့ ပြောင်းလဲထားသော အရာများကို တည့်မှတ်ရန်နှင့် ယင်းတို့အတွက် ဟရာမ်ပြုခံထားရသည့် အချို့အရာများကို ဟလာလ်အဖြစ်ပြုပေးရန် စေလွှတ်ခဲ့သည့် နဗီတမန်တော်ဖြစ်သည်။

## ကောင်းကင်ကျမ်းရ ပုဂ္ဂိုလ်များ။

ကောင်းကင်ကျမ်းရ ပုဂ္ဂိုလ်များဆိုသည်မှာ ယဟူဒီနှင့် ခရစ်ယာန်ဘာသာဝင်များကို ဆိုလိုသည်။

## ကောင်းကင်ကျမ်းရ ပုဂ္ဂိုလ်များနှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်။

ကောင်းကင်ကျမ်းရပုဂ္ဂိုလ်များနှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်မှာ အောက်ပါအတိုင်းဖြစ်သည်။ တူညီပေသည်။ အဘယ့်ကြောင့်ဆိုသော် ယင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အာယသ်တော်များနှင့်

ရစူလ်စေတမန်များကို ငြင်းဆန်ကြသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ယင်းတို့သည် ကာဖိရ်များ ဖြစ်ကြသည်။ ထို့နောက် အရဗ် ကျွန်းစွယ်၌ နေထိုင်သည့် ကောင်းကင်ကျမ်းရပုဂ္ဂိုလ်များတွင်မှု ရွေးချယ်ခွင့်သုံးခု ရှိသည်။

① အစ္စလာမ်သာသနာကို လက်ခံခြင်း။

② ဂျစ်ဇ်ယာခေါ်(အခွန်) ပေး၍ နေထိုင်ခြင်း။

③ (အခွန်) မပေးဆောင်ပါက ယင်းတို့ကို တိုက်ခိုက်ချေမှုန်းရမည်။

## ခေတ်အဆက်ဆက် ခရစ်ယာန်ဘာသာ၏ သမိုင်း

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း ခရစ်ယာန်သာသနာသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးသော သာသနာတစ်ခုဖြစ်ကြောင်းနှင့် ယင်းဘာသာ၏ ကျမ်းဂန်မှာ အင်န်ဂျီလ်ဖြစ်ကြောင်း ဦးစွာ သိရှိထားရန်အရေးကြီးပေသည်။ ထို့နောက် ဟဇရသ်အီစာ《ﷺ》သည် အလ္လာဟ်အရှင်မြတ်၏ စေတမန်တော်ဖြစ်ကြောင်းနှင့် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးသော အင်န်ဂျီလ်ကျမ်းသည် မှန်ကန်ကြောင်းကို ကျွန်ုပ်တို့ အီမာန်သက်ဝင်ယုံကြည်ရန် အရေးကြီးပေသည်။

## ➯ တမန်တော်အီစာ《عليه السلام》ခေတ် ခရစ်ယာန်ဘာသာ။ (ပထမခေတ်)

ခရစ်ယာန်ဘာသာသည် အလ္လာဟ်အရှင်မြတ် ချပေးတော်မူသော မှန်ကန်သည့် ဘာသာဖြစ်သည်။ အရှင်မြတ်သည် တမန်တော်အီစာ《عليه السلام》ကို မိမိထံပါးသို့ ပင့်ဆောင်ခေါ်ယူပြီးနောက်တွင်လည်း တမန်တော်ကြီး၏ နောက်လိုက်များသည် အမှန်တရားပေါ်၌ အချိန်တစ်ခုထိ ရှိနေခဲ့သည်။

## ➯ ဒုတိယခေတ်။

တမန်တော်အီစာ《عليه السلام》ကို အီမာန်သက်ဝင်ယုံကြည်မှုမရှိသည့် ယဟူဒီများက တမန်တော်ကြီး၏ နောက်လိုက်များကို ချောင်းမြောင်းတိုက်ခိုက်ခြင်း၊ အဆုံးစီရင်ခြင်း၊ အာဏာပိုင်များထံပါး၌ ကုန်းချောကုန်းတိုက်ပြုလုပ်ကြသည်။ ဤအတိုင်း နှစ်ပေါင်း《၅၀》ဝန်းကျင် ဖြစ်ပွားခဲ့သည်။

## ➯ တတိယခေတ်။

ယင်းခေတ်မှာ ပထမရာစုနှစ်၏ တစ်ဝက်ကျော်မှ စခဲ့ပါသည်။ ဤခေတ်သည် အင်န်ဂျီလ်ကျမ်းကို ရေးသားပြုစုသည့် ခေတ်ဖြစ်သည်။ ထိုသို့ကျမ်းပြုရာတွင် ခရစ်ယာန်ပုပ်ရဟန်းကြီးများ၏ ကောက်နှုတ်ချက်များကိုလည်း အခြေခံသည်။ ဤခေတ်သည် ရာစုနှစ်သုံးခုကျော် ကြာညောင်းခဲ့သည်။

## ⇘ စတုတ္ထခေတ်။

ဤခေတ်သည် ခရစ်နှစ် 《၃၂၅》ခု **Nicea** မြို့၌ မဟာကွန်စတန်တိုင်းဦးဆောင် ကျင်းပသည့် ညီလာခံမှ စတင်ခဲ့သည်။ ဤညီလာခံတွင် သုံးပါးတစ်ဆူ ယုံကြည်ချက်ကို အတည်ပြုသတ်မှတ်ခဲ့သည်။

➢ ဖခင်။ ဤသည် ယင်းတို့ယုံကြည်ချက်အရ အလ္လာဟ်အရှင်မြတ် ဖြစ်သည်။

➢ သားတော်။ ဤသည် ယင်းတို့ယုံကြည်ချက်အရ တမန်တော်အီစာ《ﷺ》ဖြစ်သည်။

➢ သန့်ရှင်းသော ဝိညာဉ်တော်။ ဤသည် ယင်းတို့ယုံကြည်ချက်အရ ဟဇရသ်ဂျိဗ္ဗရာအီးလ် ဖြစ်သည်။

### ခရစ်ယာန်ဘာသာ၏ ယုံကြည်ချက်များ။

① သုံးပါးတစ်ဆူ ယုံကြည်ခြင်း။

② ပုပ်ရဟန်းမင်းကြီးများကို အထွတ်အမြတ်ထားခြင်းနှင့် သာသနာပိုင်များကို လက်ခံယုံကြည်ခြင်း။

③ လက်ဝါးကပ်တိုင်ကို အထွတ်အမြတ်ထားခြင်း။ ၎င်းတို့၏ ယုံကြည်ချက်အရ အလ္လာဟ်အရှင်မြတ်သည် သားတော်၌ ဝင်စားကာ လူသားတို့

၏ အပြစ်များကို ချွတ်ကယ်ရန် လက်ဝါးကပ်တိုင်ပေါ်တွင် မိမိကို မိမိ စတေးခဲ့ခြင်းကြောင့် လက်ဝါးကပ်တိုင်ကို အထွတ်မြတ်ထားကြခြင်း ဖြစ်သည်။

## အစ္စလာမ်သမိုင်းအတွင်းမှ ခရစ်ယာန်တို့ ဇာတ်ကြောင်း။

အစ္စလာမ်သာသနာ ပေါ်ထွန်းလာပြီးနောက် ကိုယ်တော်မြတ် (ﷺ)ခေတ်နှင့် ခုလဖာရာရှိဒီးန်များခေတ်တွင် အစ္စလာမ့်အောင်နိုင်မှုများ ကျယ်ပြန့်လာသောအခါ ခရစ်ယာန်တို့၏ အခြေအနေနှင့်ပတ်သက်၍ သုံးသပ်ပါက ပုံစံနှစ်မျိုးတွေ့ရှိနိုင်ပေသည်။

- အများစုသည် အစ္စလာမ်ကို မိမိစိတ်သဘောဖြင့် သက်ဝင်ယုံကြည်လာကြပေသည်။ ဤခရစ်ယာန်များမှာ အရဗ်ကျွန်းစွယ်၊ အီရတ်၊ ဆီးရီးယား၊ ပါလက်စတိုင်း၊ အီဂျစ်၊ အာဖရိက၊ အီရန်နိုင်ငံနှင့် အရှေ့တိုင်း၏ ဒေသအသီးသီးမှ ခရစ်ယာန်များဖြစ်ကြသည်။

- ကျန်ပုဂ္ဂိုလ်များကိုမူ အခြေနေနှစ်ရပ်ဖြင့် တွေ့ရှိနိုင်ပေသည်။

- အစ္စလာမ့်အောင်နိုင်မှုကြီးများ မရောက်ရှိသည့် နိုင်ငံများမှ ခရစ်ယာန်များ။ ယင်းနိုင်ငံမှာ စပိန်နိုင်ငံမှအပ အရှေ့ဥရောပနိုင်ငံများဖြစ်သည်။ ယင်းတို့၏ စင်တာမှာ ရောမဖြစ်ပေသည်။ ယင်းရောမနိုင်ငံမှပင်

ခရူးဆိတ်စစ်ပွဲ၌ အာဖရိက၊ အီဂျစ်၊ ဆီးရီးယားရှိ မွတ်စ်လင်မ်များကို ဝင်ရောက်တိုက်ခိုက်ခဲ့ခြင်းဖြစ်သည်။

➢ ကျန်ခရစ်ယာန်များမှာ အစ္စလာမ့်နိုင်ငံတော်အတွင်း အခွန်ပေး၍ နေထိုင်ကြသည်။

## ခရစ်ယာန်တို့၏ အဓိက ဂိုဏ်းကွဲများ။

ခရစ်ယာန်ဘာသာတွင် အဓိက ဂိုဏ်ကြီး (၃) ဂိုဏ်းရှိပေသည်။

① **ကက်သလစ်ဂိုဏ်း။** ယင်းဂိုဏ်းသည် ခရစ်ယာန်ဘာသာ၌ အကြီးမားဆုံးသော ဂိုဏ်းဖြစ်သည်။ ယင်းတို့၏ စင်တာမှာ ရောမ၌တည်ရှိပြီး ယင်းဂိုဏ်းဝင်အများစုမှာ များသောအားဖြင့် ဥရောပတွင် တည်ရှိသည်။ ထိုသူတို့၏ အဓိက ယုံကြည်ချက်မှာ “သားတော်သည် ဖခင်နှင့် ဘုရားသခင်ဖြစ်ခြင်းတွင် တူညီမှုရှိပြီး သန့်ရှင်းသော ဝိဉာဉ်တော်သည် ယင်းတို့နှစ်ပါးမှ ဖြစ်တည်လာသည်” ဟူ၍ ဖြစ်သည်။

② **orthodox (ရောမဩသဒေါက်စ်)။** ဤသည် အရှေ့ ရောမဩသဒေါက်စ်ဂိုဏ်းပင်ဖြစ်သည်။ ယင်းတို့၏ ယခင် စင်တာမှာ (ကွန်စတန်တီနိုပယ် ‘ဝါ’ အစ္စတန်ဘူလ်) ဖြစ်သည်။ ယင်းဂိုဏ်းဝင်အများစုမှာ အာရှအနောက်၊ အာရှမြောက်ဘက်နှင့် အရှေ့ဥရောပတွင် တည်ရှိသည်။ ယခုအခါတွင် ယင်းတို့၏ သီးသန့်စင်တာ မရှိပေ။ ထို့နောက် ၎င်းတို့၏ ယုံ

ကြည်ချက်မှာ "ဖခင်ဘုရားသခင်သည် သားတော် ထက်သာပိုမြတ်၍ သန့်ရှင်းသော ဝိညာဉ်တော်သည် ဖခင်ဘုရားသခင်မှ ဖြစ်တည်လာခြင်း ဖြစ်သည်။

**③ ပရိုတက်စတင့်ဂိုဏ်း။** ဤဂိုဏ်းကို ခရစ်နှစ် **《၁၆》** ရာစုတွင် ဘုန်းတော်ကြီး မာတင်လူသာက စတင် မျိုးစေ့ချခဲ့သည်။ ယင်းဂိုဏ်းဝင်အများစုမှာ ဥရောပနှင့် မြောက်အမေရိကမှ ဖြစ်ကြသည်။ ယင်းဂိုဏ်းဝင်တို့သည် ပုပ်ရဟန်းမင်းကြီးများ၏ အခွင့်အာဏာ၊ ခွင့်လွှတ်ပိုင်ခွင့်နှင့် ကက်သလစ်ချာ့ချ်၏ ဝတ်ပြုရေးနှင့် ထုံးတမ်းအချို့ကို အသိအမှတ်မပြုပေ။ ယင်းတို့၏ သုံးပါတစ်ဆူ ယုံကြည်ချက်သည် ပထမနှစ်ဖွဲ့ထက် ပေါ့လျော့မှုရှိပေသည်။

**မျက်မှောက်ခေတ် ခရစ်ယာန်တို့နေထိုင်ရာ နိုင်ငံများနှင့် ဒေသများ။**

ခရစ်ယာန်ဘာသာသည် ကမ္ဘာအဝန်း၌ အစ္စလာမ်သာသနာပြီးနောက် အပြန့်ပွားဆုံးဘာသာဖြစ်သည်။ ယင်းဘာသာဝင်များသည် ဥရောပနှင့် အမေရိကတို့တွင် အဓိကနေထိုင်ကြသည်။ ထို့နောက် အစ္စလာမ့်ကမ္ဘာအတွင်းရှိ စီရီယား၊ အီဂျစ်၊ မော်ရိုကို၊ ဆူဒန် နိုင်ငံများတွင်လည်း ခရစ်ယာန်လူနည်းစုတို့ နေထိုင်ကြသည်။

## မျက်မှောက်ခေတ် ခရစ်ယာန်တို့၏ လှုပ်ရှားမှုများ။

❁ ခရစ်ယာန်သာသာသနာပြုခြင်း။

❁ နယ်ချဲ့ခြင်း။ ခရစ်ယာန်များသည် အစ္စလာမ့်ကမ္ဘာကို ဟစ်ဂျရီ သုံးရာစုနှစ် အဆုံးပိုင်းတွင် နယ်ချဲ့မှုများ စတင်ခဲ့သည်။ ထို့နောက် ဟစ်ဂျရီ လေးရာစုနှစ်နှင့် ငါးရာစုနှစ်တွင် ထိုနယ်ချဲ့မှုသည် ပိုမိုပြင်းထန်လာပေသည်။ ဤခေတ်ကာလတွင် ဖြစ်ပွားခဲ့သည့် စစ်ပွဲများကို ခရူးဆိတ်စစ်ပွဲ ဟုခေါ်သည်။

# ဗုဒ္ဓဘာသာ{Buddhism}

1. • အာရှနှင့် အိန္ဒိယနိုင်ငံရှိ ဘာသာတရားများအကြောင်းတစေ့တစောင်း။

2. • ဗုဒ္ဓဘာသာ။

3. • ဗုဒ္ဓ၏ မူးရင်းဇစ်မြစ်နှင့် အမည်မှည့်ခေါ်ရခြင်း၏ အကြောင်းအရင်း။

4. • ဗုဒ္ဓ၏ယုံကြည်ချက်များနှင့် သင်ကြားပို့ချချက်များ။

5. • ဗုဒ္ဓဘာသာဝင်အများစုနေထိုင်သော နိုင်ငံများနှင့် ဒေသများ။

# ဗုဒ္ဓဘာသာ 《Buddhism》

## ① • အာရှနှင့် အိန္ဒိယနိုင်ငံရှိ ဘာသာတရားများ အကြောင်းတစေ့တစောင်း။

အာရှအရှေ့အရပ်၊ မြောက်အရပ်နှင့် အိန္ဒိယနိုင်ငံတွင် ထောင်ပေါင်းများစွာသော ဘာသာတရားများရှိပေသည်။ ထိုဘာသာတရားများ အားလုံးနီးပါးသည် ရုပ်ထုကိုးကွယ်ခြင်း၊ တုဖက်နှိုင်း ယှဉ်ခြင်း၊ ဒွိဋ္ဌိဆန်ခြင်းများပေါ်တွင် မူတည်ကြပေသည်။ ရုပ်ထုကိုး ကွယ်ခြင်းသည် နှစ်ပေါင်း 《၃၀၀၀》 ကျော်တည်းကပင် တည်ရှိခဲ့ခြင်း ဖြစ်သည်။ ယင်းသည် ဘာသာတရားတစ်ခုထက် ဘဝရှင်သန်ခြင်းဆိုင်ရာ လမ်းညွှန်ချက်များဖြင့် ပေါင်းစည်းထားသည့် လမ်းစဉ်နှင့် ပို၍တူဆင်ပေသည်။ ဤကျမ်းငယ်တွင် အာရှအရှေ့ပိုင်းတွင် တည်ရှိသည့် ဗုဒ္ဓဘာသာနှင့် ပတ်သက်၍ တင်ပြသွားမည် ဖြစ်သည်။

ဦးစွာပထမ ဟိန္ဒူဘာသာနှင့်ပတ်သက်၍ အကျဉ်းချုံးဖော်ပြသွားမည်။ သို့ဖြစ်ပေရာ ဟိန္ဒူဘာသာသည် အိန္ဒိယနိုင်ငံရှိ ရုပ်ထုကိုးကွယ်သော ဘာသာတရားများနက်မှ အကြီးဆုံးနှင့် နောက်လိုက်အများဆုံး ဘာသာတရား တစ်ခုပင် ဖြစ်သည်။ ယင်းဘာသာကို **Bc** ရှစ်ရာစု

နှစ်တွင် ဟိန္ဒူဘာသာအား သုံးပါးတစ်ဆူပုံစံဖြင့် ဆန်းသစ်ခဲ့သည့် ဗြဟ္မာကို အခြေခံ၍ ဗြဟ္မာဘာသာဟူ၍လည်း ခေါ်ဆိုသည်။

## ॐ ဟိန္ဒူဘာသာ၏ ယုံကြည်ချက်များ ॐ

☞ ဟိန္ဒူဘာသာသည် သုံးပါးတစ်ဆူ ယုံကြည်ချက်ကို လက်ကိုင်ထားသော ဘာသာဖြစ်သည်။

① ဗြဟ္မာ 《ဖန်ဆင်းရှင်ဘုရားသခင်》

② ဗိဿနိုး 《ထိန်းသိမ်းစောင့်ရှောက်တော်မူသော ဘုရားသခင်》

③ ရှီဝ 《ဖျက်ဆီးသော ဘုရားသခင်》

☞ သုံးပါးတစ်ဆူအပြင် ယင်းတို့ထံပါး၌ များစွာသော ဘုရားသခင်များ ရှိသေးသည်။

ဥပမာ- မိုးဘုရားသခင်။ မြေဘုရားသခင်။ မိုးကြိုးဘုရားသခင်။ မီးဘုရားသခင်။

☞ ထို့ကြောင့် ယင်းတို့ နှစ်သက်မြတ်နိုးသော အဖန်ဆင်းခံတိုင်းကို ကိုးကွယ်ကြသကဲ့သို့ ယင်းတို့ ကြောက်ရွံ့စိုးရိမ်သော အရာများကိုလည်း ကိုးကွယ်ကြသည်။ ထို့နောက် ယင်းတို့သည် နွားကိုလည်း အထွတ်အမြတ်ထား ကိုးကွယ်ကြသည်။

☞ ယင်းတို့သည် ပြန်လည်ရှင်ပြန်ထရခြင်းနှင့် တမလွန်ဘဝကို သက်ဝင်ယုံကြည်ခြင်းမရှိကြပေ။ ထို့ကြောင့် မိမိပြုသည့် ကောင်းမှု၊

မကောင်းမှုအစားကို လောကဥ္စပင် ဝိညဉ်များအဖြစ် ပြန်လည်ဝင်စားကာ ခံစားရမည်ဟူ၍ လက်ခံယုံကြည်ကြသည်။

❑ ဟိန္ဒူဘာသာဝင်အများစုသည် အိန္ဒိယနိုင်ငံ၌ နေထိုင်ကြ၍ တရုတ်၊ တိဗက်၊ ကိုးရီးယားနှင့် အာရှအရှေ့ပိုင်းနိုင်ငံများတွင် အနည်းစု နေထိုင်ကြသည်။

## ॐဟိန္ဒူဘာသာတို့၏ လူတန်းစားများ ॐ

ဟိန္ဒူဘာသာဝင်တို့ကို

① **ဗြဟ္မဏ၊**

② **မင်းမျိုးမင်းနွယ်၊**

③ **ဓနရှင်လူတန်းစား၊**

④ **အခြေခံလူတန်းစား၊** လက်မှုပညာရှင်လူတန်းစားဟူ၍ 《၄》 မျိုးရှိပေသည်။

## ဗုဒ္ဓဘာသာ

### 3 •ဗုဒ္ဓ၏ မူးရင်းဇစ်မြစ်နှင့် အမည်မည့်ခေါ်ရခြင်း၏ အကြောင်းအရင်း။

ဗုဒ္ဓဘာသာသည် အိန္ဒိယတွင် တည်ရှိသည့် ရုပ်ထုကိုးကွယ်သော ဂေါတမဘုရားတည်ထောင်ထားသည့် ဘာသာဖြစ်သည်။ ဂေါတမဘုရား၏ ငယ်အမည်မှာ သိဒ္ဓတ္ထဂေါတမ (ဗုဒ္ဓ-ဉာဏ်အလင်းရသူ) ဖြစ်သည်။ ယင်းသည် ကြွယ်ဝ၍ အာဏာရှိသော မိသားစုမှ ဆင်းသက်လာသူ ဖြစ်သည်။ ၎င်းသည် **Bc** ခြောက်ရာစုနှစ်တွင် ပွင့်ပေါ်ခဲ့သည်။

### 4 •ဗုဒ္ဓ၏ယုံကြည်ချက်များနှင့် သင်ကြားပို့ချချက်များ။

#### ❶ ကိုးကွယ်ခြင်းဆိုင်ရာ ဗုဒ္ဓ၏ ယုံကြည်ချက်။

ဗုဒ္ဓသည် ကနဦးတွင် ကိုးကွယ်ရာအရှင်၊ အကွယ်ကိစ္စရပ်များနှင့်ပတ်သက်၍ ပြောဆိုခဲ့ခြင်း မရှိပေ။ ဗုဒ္ဓကွယ်လွန်ပြီး နောက်တွင် နောက်လိုက်များက ၎င်းကို ကိုးကွယ်မှုများပြုသကဲ့သို့ ၎င်း၏ ဘုရားကျောင်းဆောင်များနှင့် ဆင်းတုများပါ ထွင်းထုကြပေသည်။

❷ ဗုဒ္ဓသည်လည်း ဟိန္ဒူဘာသာဝင်များကဲ့သို့ မိမိပြုသည့် အကောင်း၊ အဆိုးပြစ်မှုများကို လောကဥ္စပင် ဝိဥာဉ်များ ပြန်လည်ဝင်းစားသည့်ပုံစံဖြင့် ခံစားရမည်ဟု ယုံကြည်ချက်ထားရှိပေသည်။

❸ ဗုဒ္ဓသည် ဟိန္ဒူဘာသာဝင်တို့၏ လူတန်းစားခွဲခြားမှုကို ပယ်ဖျက်ခဲ့သည်။ ထို့နောက် လူတိုင်းသည် အခွင့်အရေးနှင့် တာဝန်ဝတ္တရားများတွင် တန်းတူဖြစ်သည်ဟု ယုံကြည်ချက်ထားရှိပေသည်။

❹ ဆွမ်းခံပြီးနောက် ဆွမ်းကိုသာ စားသုံး၍ ကမ္ဘဋ္ဌာန်းအားထုတ်ရန် လမ်းညွှန်ခြင်း။ ဗုဒ္ဓသည် မိမိနောက်လိုက်များကို လုပ်ငန်းများ၊ လယ်ယာများနှင့် လူတို့၏ ဥစ္စာပစ္စည်းများမှ ဝေးစွာနေထိုင်ရန် မှာတမ်းသည်။

✧ ဗုဒ္ဓဘာသာဝင်များသည် ကိုးရီးယား၊ တရုတ်၊ ဂျပန်၊ နီပေါ၊ အင်ဒိုနီးရှား၊ တိဗက်၊ သီဟိုဠ်ကျွန်း၊ java ကျွန်း၊ မွန်ဂိုလီးယား၊ siam ၊ ကမ္ဘောဒီးယား၊ ထိုင်းနှင့် မြန်မာနိုင်ငံတို့တွင် နေထိုင်ကြသည်။

# ကွန်မြူနစ်ဝါဒ (communism)

## ❶ အစပွားယ်ဖွင့်ဆိုချက်။

ကွန်မြူနစ်ဝါဒဆိုသည်မှာ ကားလ်မာ့ခ်တည်ထောင်သည့် စီးပွားရေးဆိုင်ရာ အတွေးအခေါ်တစ်ရပ်ဖြစ်သည်။ ယင်းဝါဒသည် လူတစ်ဦးတိုင်း၏ ပိုင်ဆိုင်မှုနှင့် အမွေဆက်ခံမှုတို့ကို အသိအမှတ်မပြုဘဲ ပိုင်ဆိုင်မှုတိုင်းကို မျှစေပိုင်ဆိုင်ခြင်းပေါ် အခြေခံထားသည်။

## ❷ ကွန်မြူနစ်ဝါဒကို မျိုးစေ့ချသူ။

ကွန်မြူနစ်ဝါဒကို စတင်မျိုးစေ့ချခဲ့သူမှာ ယဟူဒီဘာသာဝင် ဂျာမနီလူမျိုး ကားလ်မာ့ခ်ဖြစ်သည်။ ယင်းပုဂ္ဂိုလ်၏ ကိုယ်ရေးရာဇဝင်နှင့်ပတ်သက်၍ သုတေသီများက ဤသို့ ဖော်ပြကြသည်။ “၎င်းတွင် ယဟူဒီတို့၏ ကိုယ်ကျင့်တရားများ အပြည့်ရှိပေသည်။ ထို့ပြင် ၎င်းသည် ဆင်းရဲ၍ ပျင်းရိသူတစ်ယောက်ဖြစ်သည်။ ဤသည်ကို အခွင့်ကောင်းယူကာ ယဟူဒီတို့သည် ၎င်းထံမှ မိမိတို့လိုချင်သည့်အတိုင်း အမြတ်ထုတ်ခဲ့သည်။ ဤသည်ပင် ၎င်းက ကွန်မြူနစ်ဝါဒကို ကြွေးကြော်ရခြင်း၏ အစိက အကြောင်းတရားပင်ဖြစ်သည်။

## ❸ ကွန်မြူနစ်ဝါဒ ဖြစ်ပေါ်လာပုံသမိုင်း။

ကားလ်မာ့ခ်သည် မိမိ၏ သူငယ်ချင်းဖြစ်သူ ဖက်ဒရစ် အိန်ဂျယ်နှင့်အတူ လူတို့ကို ထိန်းချုပ်ကျွန်ပြုထားသည့် ချာချ်နှင့် အနောက်တိုင်း အရှင်းရှင်စနစ်ကို ဆန့်ကျင်ကာ 《AD1848》 တွင် ကွန်မြူနစ်တော်လှန်ရေးကို စတင်ခဲ့သည်။ ယင်းတို့၏ တော်လှန်ရေးသည် မီးကို ခဲတံဆီဖြင့် ငြိမ်းသကဲ့သို့ ထိုကွန်မြူနစ် ဒိဋ္ဌိဝါဒကို ပိုမိုတွင်ကျယ်စေခဲ့သည်။

ထို့နောက် ကွန်မြူနစ်ဝါဒသည် အတွေးအခေါ်တစ်ရပ်အဖြစ် တည်ရှိနေပြီးနောက် 《၁၉၁၇》နှစ်တွင် လီနင်နှင့် ကမ္ဘာလုံးဆိုင်ရာ ယဟူဒီများပါ ငွေကြေးနှင့် နည်းစနစ်အရ ပူးပေါင်း၍ ရုရှားတွင် ကွန်မြူနစ်တော်လှန်ရေးကြီး ဖြစ်ပွားခဲ့သည်။

ယခုအခါတွင်မူ ယင်းကွန်မြူနစ်ဝါဒသည် အာရှအရှေ့အရပ်၊ မြောက်အရပ်ဒေသများ၊ အစ္စလာမ့်နိုင်ငံများနှင့် အရှေ့မြောက်ဥရောပနိုင်ငံများတွင် ကြီးစိုးနေသည်။ ထို့ပြင် တောင်အမေရိက၊ အရှေ့တောင်အာရှနှင့် အာဖရိကနိုင်ငံများတွင် ကွန်မြူနစ်ဝါဒကို အတင်းအကျပ် အကောင်အထည်ဖော် ဆောင်ရွက်ခြင်းခံရသည်။

## ❹ ကွန်မြူနစ်ဝါဒ၏ သရုပ်မှန်။

ကွန်မြူနစ်ဝါဒသည် စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏ နေ့အ်မသ်များကို ငြင်းဆန်ခြင်း၊ လမ်းမှားခြင်း၊ စည်းဘောင်ကျော်ခြင်း များပေါ်တွင် မူတည်၍ လူသားတစ်ရပ်လုံးကို ပြစ်ဒဏ်ခတ်သည့် အရာ တစ်ခုအလားဖြစ်သည်။ ထို့ပြင် မွတ်စ်လင်မ်များအနက်မှ ယင်းဝါဒ လက်ခံသူများသည်လည်း အရှင်မြတ်ဘက်တော်မှ ၎င်းတို့ကို စမ်း သပ်သမှုပြုထားခြင်းပင် ဖြစ်သည်။

စင်စစ် ယင်းဝါဒသည် လူသားတစ်ရပ်လုံးကို စီးပွားရေး၊ အုပ် ချုပ်ရေး၊ လူမှုရေးအရ ဖျက်ဆီးရန်အတွက် ယဟူဒီတို့ တည်ထောင် ထားသည့် အစီအစဉ်တစ်ခုဖြစ်သည်။

## ❺ ကွန်မြူနစ်ဝါဒ၏ အခြေခံမူများ။

❖ ရုပ်ဝတ္ထုသည် ဘဝရှင်သန်ခြင်းအတွက် အဓိကကျသောအရာဖြစ် သည်။ ထို့နောက် ယင်းတို့၏ ယုံကြည်ချက်အရ ဖန်ဆင်းရှင်မရှိသကဲ့သို့ စကြာဝဠာကို စီမံသူလည်းမရှိပေ။ ထိုယုံကြည်ချက်မှပင် ယင်းတို့အ တွက် ဘာသာတရားများနှင့် အလ္လာဟ်အရှင်မြတ်ကို သက်ဝင်ယုံကြည် သည့် မုအ်မင်န်များကို သတ်ခြင်းသည် အရေးကြီးကိစ္စရပ်တစ်ခုဖြစ်သ ကဲ့သို့ ကွန်မြူနစ်ဝါဒ၏ ပင်မအုပ်မြစ်တစ်ခုလည်း ဖြစ်လာစေသည်။

❖ အရင်းရှင်စနစ်နှင့် ကွန်မြူနစ်စနစ်ကြား၌သော်လည်းကောင်း ဆင်းရဲသား လက်လုပ်လက်စားများနှင့် ဥစ္စာဓနရှင်များ၊ သူဌေးများကြား၌ သော်လည်းကောင်း လွန်ဆွဲပွဲများသည် မုချတည်ရှိနေမည့် အရာများဖြစ်သည်။ ထို့ပြင် အရင်းရှင်စနစ်သည် ယင်းတို့ထက် သာပိုတိုးတက်နေသည့်အတွက်ကြောင့် နောင်လာမည့်ခေတ်တွင် ယင်းတို့၏ စနစ်သာလျှင် တိုးတက်အောင်မြင်ရမည်ဟုဆိုကာ ထိုလမ်းတွင် သက်စွန့်စတေး၍ လုပ်ဆောင်ကြပေသည်။

❖ ကွန်မြူနစ်ဝါဒကျင့်သုံးသော နိုင်ငံများတွင် အုပ်ချုပ်မှုအာဏာသည် လုပ်သားပြည်သူများ၏ လက်ဝယ်တွင်သာ ရှိရမည်။ ထို့နောက် ယင်းသူများကို ကွန်မြူနစ်ဝါဒီများက “လက်စားချေလူတန်းစား”ဟု ခေါ်ဆိုကြသည်။ ဤသို့ဖြင့် လုပ်သားပြည်သူနှင့် ဓနရှင်များကြားတွင် မနာလိုရန်ငြိုးထားရှိမှုများ ပေါ်ပေါက်လာပေသည်။

## ❼ ကွန်မြူနစ်ဝါဒသည် သာသနာနှင့် သဘာဝတရားကို ဆန့်ကျင်ခြင်း။

➭ ယုံကြည်ချက်အရ ဆန့်ကျင်ခြင်း။

ကွန်မြူနစ်ဝါဒသည် အလ္လာဟ်အရှင်မြတ်တည်ရှိတော်မူခြင်း၊ ဂျန္နသ်၊ ဂျဟန္နမ်၊ သေပြီးနောက်ပြန်လည်ရှင်ပြန်ထခြင်းများကို ငြင်းဆန်သည်။ ဤရှုထောင့်အရ အလ္လာဟ်အရှင်မြတ်ကို အီမာန်သက်ဝင်ယုံ

ကြည်ခြင်း၊ အစားပေးခံရခြင်း၊ အပြစ်ပေးခံရခြင်းတို့နှင့်ပတ်သက်၍ အီမာန်သက်ဝင်ယုံကြည်ရမည်ကို ဆန့်ကျင်နေပေသည်။

➯ အတွေးအမြင်အရ ဆန့်ကျင်ခြင်း။

ကွန်မြူနစ်ဝါဒသည် မှန်ကန်သော အတွေးရှိသည့်သူတိုင်း လက်မခံနိုင်သည့် ရုပ်ဝတ္ထုပေါ် အခြေခံထားပေသည်။ ရုပ်ဝတ္ထုသာလျှင် လူသား၏အတွေးခေါ်နှင့် ဘဝ၏ကဏ္ဍတိုင်းအတွက် အဓိကသော့ချက်ပင် ဖြစ်သည်။ ဤသည် လူ့သဘာဝဖြစ်သည့် အကောင်းကိုမြတ်နိုးခြင်း၊ လူသား၏အတွေးအမြင်များသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဝဟီဖြင့်သာ ရရှိနိုင်ခြင်းတို့နှင့် ဆန့်ကျင်နေသည်။ ထို့ပြင် လူ့သဘာဝသည် ရုပ်ပိုင်းနှင့် နာမ်ပိုင်း၊ လောကီနှင့် လောကုတ္တရာကို ချိန်ညှိအသုံးပြုမှသာ တည့်မတ်နိုင်ပေသည်။

➯ စီးပွားရေးအရ ဆန့်ကျင့်ခြင်း။

ကွန်မြူနစ်ဝါဒသည် တစ်ဦးတည်း၏ပိုင်ဆိုင်မှုကို လက်မခံရုံသာမက လူတန်းစားကွာဟမှုကိုလည်း လက်မခံပေ။ ထို့နောက် ပိုင်ဆိုင်မှုတွင် တန်းတူပိုင်ဆိုင်ခွင့်ရှိခြင်း၊ အရည်အချင်းနှင့် ပါရမီတွင် လူအချင်းချင်းကြား၌ ကွာခြားမှုမရှိခြင်း စသည်တို့သည် ၎င်းတို့၏ စီးပွားရေးဆိုင်ရာ မူဝါဒများဖြစ်သည်။ ထိုအချက်များကြောင့်ပင် ယင်းကွန်မြူနစ်ဝါဒသည် အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူထားသော သဘာဝတရား

နှင့် ဆန့်ကျင်နေပေသည်။ အရှင်မြတ်သည် အလုပ်ကြိုးစားသူ၊ ပျင်းရိသူဟူ၍ လူတို့တွင် အဆင့်အတန်းများကွာခြားစွာ ဖန်ဆင်းထားပေသည်။

## ❽ ကွန်မြူနစ်ဝါဒကျင့်သုံးပြီးနောက် မြေပြင် အခြေအနေ။

ကွန်မြူနစ်ဝါဒသည် သဘာဝတရားကို ဆန့်ကျင်သည့်အတွက်ကြောင့် ယင်းဝါဒကျင့်သုံးသော ရုရှား၊ တရုတ်နှင့် ယင်းတို့၏နောက်လိုက်နိုင်ငံများသည် အလျင်အမြန်ပင် ကျရှုံးခဲ့ကြရသည်။ ထို့ကြောင့် ယင်းဝါဒီတို့သည် မိမိတို့မူဝါဒအများစုကို လက်လွှတ်လိုက်ရသည့် အနေအထားကိုပင် ရောက်ရှိခဲ့သည်။ အထူးသဖြင့် စီးပွားရေးကဏ္ဍ၌ ယင်းတို့၏ မူဝါဒသည် မအောင်မြင်သကဲ့သို့ လူတန်းစားအားလုံးကို တန်းတူဆက်ဆံခြင်းသည်လည်း အကောင်အထည်အပြည့်အဝ မဖော်နိုင်သည့်အတွက်ကြောင့် ပင်ဖြစ်သည်။ ထို့ပြင် ပိုင်ဆိုင်မှု၊ အသုံးစားရိတ်နှင့် ပေးကမ်းမှုများတွင်လည်း ကွာဟမှုကို မဖြစ်မနေ လက်ခံလာရပေသည်။ သို့သာမက ယင်းဝါဒ၏ ခေါင်းကြီးပိုင်းများကမူ မြင့်မားသော တိုက်တာအဆောက်အအုံများနှင့် အရင်းရှင်စနစ်ကျင့်သုံးသော အနောက်နိုင်ငံများမှ တင်သွင်းသည့် ဇိမ်ခံအစီးအနင်းများဖြင့် စည်းစိမ်ရစ်မူးနေကြသည်။ သို့သော် လုပ်သားပြည်သူများကြားတွင် မုန့်ပိုင်းတစ်ခုကို စိတ်၍ ခွဲဝေပေးကြသည်။ ထို့နောက် လုပ်ငန်းရှင်များနှင့်

တီထွင်ကြံ ဆနိုင်သူများ၏ တက်ကြွစွာလုပ်ဆောင်ချင်စိတ်ကိုလည်း အသိအမှတ် ပြုလာရပေသည်။ သို့မှသာ ထုတ်ကုန်များ တိုးတက်မှုအား တွေ့ရှိနိုင်သည်ကို ယင်းတို့ ရိပ်စားမိလာပေသည်။ အခြားတစ်ဖက်တွင်မူ အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်၌ ဤသို့ အတိအလင်းမိန့်ခြွေပြီး ဖြစ်လေသည်။

"အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကရုဏာတည်းဟူသော နဗီတမန်တော်အဖြစ် ချီးမြှောက်ခြင်းကို ၎င်းတို့သည်ပင် ခွဲဝေပေးကြသလော။ (စင်စစ်သော်ကား) ငါအရှင်မြတ်သည် လောကီဘဝ၌ ၎င်းတို့၏ အသက်မွေးဝမ်းကျောင်း ပရိယေသနကိစ္စ စားနပ်ရိက္ခာကိုပင် ၎င်းတို့၏ အကြား၌ ခွဲဝေပေးထားတော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အနက်အချို့သည် အချို့အား လက်အောက်ခံအခိုင်းအစေ ပြုအံ့သောငှာ ၎င်းတို့အနက် အချို့ကို အချို့ထက် အဆင့်အတန်းများစွာ မြင့်တင်ပေးတော်မူခဲ့၏။ (၄၃-၃၂)

## ❾ အစ္စလာမ့်ကမ္ဘာအတွက် ကွန်မြူနစ်ဝါဒ၏ အန္တရာယ်။

အစ္စလာမ့်ကမ္ဘာနှင့်ပတ်သက်၍ ကွန်မြူနစ်ဝါဒ၏ အန္တရာယ်ကို ပြောဆိုသည့်အခါ ယင်းကွန်မြူနစ်ဝါဒတစ်ခုတည်းသာလျှင် အစ္စလာမ့်ရန်သူ မဟုတ်ပေ။ သို့သာမက အစ္စလာမ်နှင့်ပတ်သက်၍ လှည့်ဖြားကြံစည်မှုတွင် အနောက်တိုင်းအရင်းရှင်စနစ်သည်လည်း ထိုနည်း ၎င်းပင်

ဖြစ်သည်။ ထိုအဖွဲ့တစ်ခုလုံး၏ နောက်ကွယ်တွင် ယဟူဒီလက်မည်းကြီး ရှိနေပေသည်။

သို့ဖြစ်ပေရာ ကွန်မြူနစ်ဝါဒသည် ဘာသာတရားများနှင့် ကိုယ်ကျင့်တရားများကို ဖျက်ဆီးပစ် ရန်ကြိုးစားသကဲ့သို့ အစ္စလာမ်နှင့် မွတ်စ် လင်မ်များကိုလည်း ဖျက်ဆီးပစ်ရန် အစွမ်းကုန် ကြိုးစားပေသည်။ ဤသည် ယင်းဝါဒ၏ အဓိကရည်ရွယ်ချက်ဖြစ်သည်။ လက်ရှိအချိန်တွင်မူ ယင်းဝါဒသည် အစ္စလာမ့်ကမ္ဘာရှိ ယီမင်နိုင်ငံတောင်ပိုင်းနှင့် ဆိုမာလီ ယာနိုင်ငံများတွင် ကြီးစိုးနေပေသည်။ ထို့ပြင် ယင်းတို့သည် အခြားအခြားသော ပဋိပက္ခများ၊ ကွန်မြူ နစ်ဝါဒီဝင်ဂိုဏ်းဂဏများတည်ထောင်ကာ မွတ်စ်လင်မ်လူထုကြားတွင် စည်းလုံးမှုပျက်ပြားအောင် ပြုပေသည်။ ဤကြံစည်လုပ်ဆောင်မှုများကို မွတ်စ်လင်မ်ထုတစ်ရပ်လုံးသည် တညီတညွတ်တည်း အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ပြန်လှည့်၍ သာသနာကို စွဲမြဲစွာဆုပ်ကိုင်ပြီး တွန်းလှန်ကြရမည်ဖြစ်သည်။

# လောကီဝါဒ (secularism)

## အဓိပ္ပာယ်ဖွင့်ဆိုချက်။

လောကီဝါဒဆိုသည်မှာ အနောက်တိုင်းပညာရှင်များ၏ ဖွင့်ဆိုချက်အရ သာသနာကို ဘဝ၏ကဏ္ဍအသီးသီးမှ သီးခြားပြုခြင်းဖြစ်သည်။

## လောကီဝါဒ၏ မှားယွင်းသော ယုံကြည်ချက်။

လောကီဝါဒသည် အမိုက်ခေတ်၏ အတွေးအခေါ်အယူအဆတစ်ခု ဖြစ်သည်။ ယင်းသည် သာသနာကို ဘဝ၏ ကဏ္ဍအသီးသီးမှ သီးခြားပြုသည့် ဝါဒဖြစ်သည်။

အစ္စလာမ်သာသနာတော်သည် လူသားထုတစ်ရပ်လုံး၏ လောကီနှင့် လောကုတ္တရာအတွက် ချမ်းသာသုခရရှိစေရန် လမ်းညွှန်ချက်များ ထားရှိပေးသော သာသနာဖြစ်ရာ ယင်းအယူအဆနှင့် လုံးလုံးပင်ကိုက်ညီမှု မရှိပေ။ ထို့နောက် သာသနာကို ဘဝ၏ ကဏ္ဍများဖြစ်သည့် နိုင်ငံရေး၊ စီးပွားရေး၊ ပညာရေး၊ မိသားစုရေးနှင့် ပတ်ဝန်းကျင်ရေးရာစသည့်ကဏ္ဍအသီးသီးမှ ဖယ်ရှားပစ်ခြင်းသည် အစ္စလာမ့်အမိန့်အရ သွေဖည်ခြင်း၊ အရှင်မြတ်လမ်းအား ပိတ်ဆို့ခြင်း၊ အရှင်မြတ်၏ အမိန့်ပညတ်များအား ပယ်ဖျက်ခြင်းပင် ဖြစ်သည်။

လောကီဝါဒ၏ ယုံကြည်ချက်မှာ သာသာနာနှင့် အသိပညာသည် ဆန်ကျင်ဘက်အရာများပင် ဖြစ်ပေသည်။ သာသနာသည် လောကီရေးရာ ကိစ္စရပ်များနှင့် လုံးဝ သက်ဆိုင်ခြင်းမရှိသည်သာမက သာသနာကို ဆုပ်ကိုင်ခြင်းသည်ပင် ခေတ်နောက်ကျခြင်းပင် ဖြစ်သည်ဟု ယုံကြည်ထားပေသည်။ ဤသည် မှားယွင်းသော အယူအဆဖြစ်သည်။ သို့သာမက အစ္စလာမ်သာသနာသည် လူသားတို့ ချမ်းသာသုခရရှိရေးအတွက် အသိပညာ၊ အတတ်ပညာများကို သင်ကြားပို့ချပေးသော သာသနာဖြစ်သည်သာမက ဖွံ့ဖြိုးတိုးတက်စေသော သာသနာလည်း ဖြစ်သည်။ အစ္စလာမ်သာသနာတော်သည် ကမ္ဘာတစ်ခွင်တွင် ပညာ့အလင်းထွန်းလင်းပေးခဲ့သည့် သာသနာဖြစ်ကြောင်းကို အနောက်တိုင်းသားများကိုယ်တိုင်ပင် သိရှိကြပေသည်။

ထိုသို့သော ယုံကြည်ချက်များ ဖြစ်လာရခြင်း၏ အကြောင်းအရင်းမှာ သာသနာပိုင်များသည် အနောက်တိုင်း၌ ဖွံ့ဖြိုးတိုး တက်မှု၏ ဆန့်ကျင်ဘက်တွင် ရပ်တည်ကြပြီး လက်တွေ့စမ်းသပ် တီထွင်ဖန်တီးခြင်းများကို မပြုပိုင်သောအရာအဖြစ် သတ်မှတ်ထားသောကြောင့် ဖြစ်သည်။

## လောကီဝါဒ ဖြစ်ပေါ်လာပုံသမိုင်း။

ခရစ်နှစ်《၁၀》ရာစု အဆုံးပိုင်းတွင် ခရစ်ယာန်ဘုရားကျောင်းများနှင့် သာသနာပိုင်များ ဥရောပ တစ်ခွင်ကို စိုးမိုးခဲ့သည်။ ထိုအချိန်၌ အစ္စလာမ့်ယဉ်ကျေးမှုသည် စပိန်နိုင်ငံတွင် အလွန်ပင် ထွန်းလင်းတောက်ပနေပေသည်။ သို့သော်မက ဥရောပနှင့် ကမ္ဘာတစ်ခွင်လုံးကို အစ္စလာမ့်အတွေးအခေါ်နှင့် ဖြောင့်မတ်မှန်ကန်သော သာသနာဖြင့် အလှဆင်ထားခဲ့သည်။ ထို့ကြောင့် ဥရောပတွင် အစ္စလာမ့်စပိန်နိုင်ငံတော်ကြီးသည် အသိပညာများနှင့် အတွေးအခေါ်များကို ဖြန့်ကျက်ခဲ့သည်။ ထိုအခါ အနောက်တိုင်းမှ ပုဂ္ဂိုလ်များသည် ဤသည်တို့ကို ရိပ်စားမိလာကြ၍ စပိန်တက္ကသိုလ်ကြီးများတွင် ပညာသင်ရန် စေလွှတ်ကြပေသည်။ ယင်းတို့သည် အစ္စလာမ့် ပညာနို့ချိုကို သောက် သုံးပြီးနောက် မိမိတို့ဒေသကို ပြန်လာခဲ့ကြသည်။ ထို့နောက် ယင်းအစ္စလာမ့်ပညာနို့ချို သောက်သုံးလာသူများသည် ချာ့ချ်ကျောင်းများနှင့် သာသနာပိုင်များ၏ များကို တွန်းလှန်ကြပြီး မိမိတို့၏ ရှာဖွေစူးစမ်းလေ့လာချက်များကို ထုတ်ဖော်ကြေညာကြပေသည်။ ထို့ကြောင့် သာသနာပိုင်များနှင့် ထိုပုဂ္ဂိုလ်များကြားတွင် ရာစုနှစ်ပေါင်းများစွာ လွန်ဆွဲပွဲများ ဖြစ်ပွားခဲ့သည်။ သာသနာပိုင်များသည် ယင်းတို့ကို ကာဖိရ်ဟု သတ်မှတ်၍ သတ်ဖြတ်ခြင်း၊ မီးရှို့ခြင်း၊ နယ်နှင်ခြင်းများပြုသကဲ့သို့ ထိုအတွေးအခေါ်ရှိသူများအား စုံစမ်းစစ်ဆေးရန် တရားရုံးများကို ယင်းသာသနာပိုင်များမှ ဦး

ဆောင်၍ တည်ဆောက်ကြပေသည်။ ထိုသို့ နှစ်ဖက် လွန်ဆွဲပွဲများသည် ရာစုပေါင်းများစွာ ဖြစ်ပွားခဲ့ပြီးနောက် ပြင်သစ်တော်လှန်ရေးတွင် သာသနာပိုင်တို့၏ ရန်သူတော်ကြီးများသည် အပြီးအပိုင် အောင်နိုင်ခဲ့ပြီး အုပ်ချုပ်ရေးနှင့် ဘဝ၏ ကဏ္ဍအသီးသီးမှ သာသနာကို ကန့်သတ်ခြင်းဖြင့် ပြီးဆုံးခဲ့သည်။ ထို့နောက် ဤတော်လှန်ရေးသည် ကမ္ဘာအနှံ့သို့ ပြန့်နှံ့ပြီး ဘာသာမဲ့ သဏ္ဍာန်သို့ ကူးပြောင်းသွားခြင်းပင်ဖြစ်သည်။

## အစ္စလာမ့် ကမ္ဘာ၌ လောကီဝါဒီတို့၏ လှုပ်ရှားမှုများ။

### ➯ တူရကီ၌ လောကီဝါဒီတို့၏ လှုပ်ရှားပုံ။

လောကီဝါဒသည် အော်တိုမန်အင်ပါယာပျက်သုဉ်းပြီးနောက်တွင် တူရကီနိုင်ငံ၌ မွတ်စ်သွဖာကမားလ်အသာသွတ်၏ ဦးဆောင်မှုဖြင့် စတင်လာခဲ့သည်။ ထို့နောက် အစ္စလာမ်သာသနာကို စနစ်တကျ အောက်ပါအစီအစဉ်အတိုင်း တိုက်ခိုက်လေသည်။

❶ အစ္စလာမ့် ခေလာဖသ်စနစ်ကို ပယ်ဖျက်ခြင်း။

❷ အစ္စလာမ့် ပုံရိပ်များကို ဖျက်ဆီးခြင်းနှင့် သာသနာကို မသိရှိတော့သည့် မျိုးဆက်တစ်ခု ဖန်တီးခြင်း။

❸ အရဗီဘာသာစကားကို ပြောဆိုရေးသားခြင်း မပြုရဟူ၍ အမိန့်ထုတ်ပြီး လက်တင်ဘာသာဖြင့် ပြောင်းလဲသုံးစွဲရန် အမိန့်ပြဌာန်းခြင်း။

❹ ကုရ်အာန်ဖတ်ခြင်း၊ ဂျမာအသ်ဖြင့် နမာဇ်ဝတ်ပြုခြင်း၊ အာဇာန်ဆိုခြင်းများကဲ့သို့သော အစ္စလာမ့် အမှတ်သညာများကို ပယ်ဖျက်ခြင်း။

## ➯ အီဂျစ်နှင့် အချို့သော အရဗ်နိုင်ငံများ၌ လောကီဝါဒတို့၏ လှုပ်ရှားပုံ။

《၂၀》ရာစုနှစ်၏ နှစ်ပေါင်းသုံးဆယ်အတွင်း၌ (အထူးသဖြင့် ဗြိတိသျှတို့ နယ်ချဲ့ချိန်၌) လောကီဝါဒီတို့သည် အီဂျစ်နိုင်ငံတွင် စတင်လှုပ်ရှားခဲ့ကြသည်။ ထို့နောက် ကဏ္ဍအသီးသီးတွင် အောက်ပါအစီအစဉ်အတိုင်း လုပ်ဆောင်ခဲ့ကြသည်။ ယင်းကဏ္ဍအသီးသီးအတွက် လော်ဘီများလည်း ပေါ်ထွန်းလာပေသည်။ ၎င်းတို့မှာ–

❖ ကိုယ်ကျင့်တရားနှင့် အိမ်တွင်းရေးကဏ္ဍ၌ ကာစင်မ်အမီးန်။

❖ ယဉ်ကျေးမှု၊ အတွေးအခေါ်၊ စာပေအနုပညာ စသည့် ကဏ္ဍ၌ ဒေါက်တာသွာဟာ ဟိုစိုင်းန်။

❖ အုပ်ချုပ်ရေးနှင့် အမိန့်ပြဋ္ဌာန်းခြင်းကဏ္ဍတွင် အလီအဗ္ဗဒ္ဒရ်ရက်ဇားက်။

➢ ယင်းပုဂ္ဂိုလ်များအပြင် سلامة موسى، سعد زغلول، لطفي السيد စသည်တို့ လည်းပါဝင်ပေသည်။

❖ စီးပွားရေးကဏ္ဍ၌ အစ္စလာမ့်အမိန့်ပညတ်များအစား ဆိုရှယ်လစ်စနစ်ကို ကျင့်သုံးခြင်း။

❖ အီဂျစ်နိုင်ငံသားများအတွက် ယုံကြည်ချက်၊ အတွေးအခေါ်၊ ယဉ်ကျေးမှုအသစ်များ အစားထိုးပေးနိုင်ရန် ဆောင်ရွက်ခြင်း။

❖ နိုင်ငံသားများ၏ အလ္လာဟ်အရှင့်လမ်းတော်၌ ဂျေဟာဒ်ပြုချင်စိတ်များကို အမျိုးသားရေး လွန်ဆွဲပွဲများဘက်သို့ လွှဲပေးခြင်း။

❖ အစ္စလာမ့်အုပ်ချုပ်မှုစနစ်ကို ဖယ်ရှား၍ နိုင်ငံဥပဒေပြဋ္ဌာန်းကျင့်သုံးခြင်း။

❖ အရပ်နိုင်ငံများအတွင်း လောကီဝါဒနှင့် ဆိုရှယ်လစ်ဝါဒတို့ ဦးဆောင်သည့် တော်လှန်ရေးများဖြစ်ပွားစေခြင်း။

## လောကီဝါဒနှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်။

လောကီဝါဒသည် သာသာနာကို ဘဝ၏ ကဏ္ဍအသီးသီးမှ သီးခြားပြုခြင်းဖြစ်ရာ ယင်းသည် အလ္လာဟ်အရှင်ချမှတ်ပေးထားသည့် အမိန့်ကို မလိုက်နာခြင်းပင်ဖြစ်သည်။ ထို့ကြောင့် ပညာရှင်များသည် လောကီဝါဒီနှင့်ပတ်သက်၍ အောက်ပါအတိုင်း အမိန့်များ သတ်မှတ်ထားပေးသည်။

✸ တစ်ဦးတည်ဖြစ်စေ၊ အဖွဲ့လိုက်ဖြစ်စေ ယင်းတို့က လူသားတို့ ရေးဆွဲပြဋ္ဌာန်းသည့်အမိန့်သည် အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းသော အမိန့်ထက် ကျင့်သုံးရန် သာပိုထိုက်သက်သည်ဟု ယုံကြည်ပါက ကုဖ်ရ်သွေဖည် ခြင်းပင်ဖြစ်သည်။

✸ အလ္လာဟ်အရှင်မြတ်အမိန့်သည် ကျင့်သုံးရန် သာပိုထိုက်သက်သည်ဟု ယုံကြည်ချက်နှင့်အတူ လူသားတို့ ရေးဆွဲသည့် အမိန့်ပညတ်များကို ကျင့်သုံးခြင်းသည် ဖိစ်က်(သာသနာ့ဘောင်ကျော်ခြင်း) ဖြစ်သည်။ သို့ပါ၍ မွတ်စ်လင်မ်တစ်ဦးသည် ဤသို့ ကျူးလွန်မိပါက သောင်ဗဟ်ပြုရန် အရေးကြီးပေသည်။

✸ ကိုယ်ကျင့်တရားကဏ္ဍ၌ မကောင်းသည့် ရုက်ဖွယ်ကိစ္စရပ်များကို ဖြန့်ကျက်ခြင်းနှင့် သာသနာကိုသေးသိမ်းစွာပြုခြင်းတို့သည် မြေပထဝီပြင်၌ ထင်းရှားပြတ်သားသော အဖျက်အမှောင့် လုပ်ခြင်း၊ လမ်းလွဲလမ်းမှားခြင်းပင် ဖြစ်သည်။

# အရှေ့တိုင်းဝါဒ။ (orientalism)

## အရှေ့တိုင်းဝါဒ၏ အဓိပ္ပာယ် ဖွင့်ဆိုချက်။

အရှေ့တိုင်းဝါဒဆိုသည်မှာ အနောက်တိုင်းမှ သုတေသီအဖွဲ့တစ်ဖွဲ့သည် အရှေ့တိုင်း၏ ပညာရပ်များ၊ ယဉ်ကျေးမှုများနှင့် သာသနာများကို လေ့လာသင်ယူခြင်းကို ခေါ်ဆိုပေသည်။ သို့ဖြစ်ပေရာ အနောက်တိုင်း စာရေးဆရာများကိုလည်း အရှေ့တိုင်းဝါဒီများဟု ခေါ်ဆိုခြင်းလည်း ရှိပေသည်။ ယင်းတို့သည် အစ္စလာမ့် ယုံကြည်ချက်၊ သမိုင်း၊ ယဉ်ကျေးမှုများနှင့် ပတ်သက်၍ ရေးသားကြသည်။ ကောက်ချက်ချခြင်းများ၊ ဝေဖန်ခြင်းများပြုလုပ်ကြသည်။

## အရှေ့တိုင်းဝါဒ ဖြစ်ပေါ်လာပုံသမိုင်း

① ခရစ်ယာန်ပုပ်ရဟန်းမင်းများသည် 《၁၀》ရာစုနှစ်၌ အရှေ့တိုင်းဝါဒကို စတင်ခဲ့သည်။ ထို့နောက် နှစ်ရာစုနှစ်နီးပါး ဖြစ်ပွားခဲ့သည့် ခရူးဆိတ်စစ်၏ အကျိုးသက်ရောက်မှုကြောင့် 《၁၂》 ရာစုနှစ်တွင် အရှေ့တိုင်းဝါဒသည် တစ်ဖန်နိုးထလာခဲ့သည်။

② 《၁၈》 ရာစုနှစ် အော်တိုမန်အင်ပါယာ ချိနဲ့လာချိန်တွင် အစ္စလာမ့်ကမ္ဘာကို နယ်ချဲ့သည့် ဥရောပတို့၏ ဖွံ့ဖြိုးတိုးတက်မှုနှင့်အညီ အရှေ့တိုင်းဝါဒ၏ လှုပ်ရှားမှုများလည်း တိုးတက်ပြန့်ပွားလာပေသည်။

## အရှေ့တိုင်းဝါဒ၏ အဓိကလုပ်ဆောင်ချက်များ

➬ အရှေ့တိုင်းဝါဒီများသည် အရဗီစကား၊ အစ္စလာမ့်သာသနာနှင့် အစ္စလာမ့်ယဉ်ကျေးမှုများကို ယနေ့ခေတ်တိုင် အဓိကထားလေ့လာကြသည်။ အဘယ်ကြောင့်ဆိုသော် နယ်ချဲ့ခြင်းနှင့် သာသနာရေးဆိုင်ရာအကြောင်းခံများကြောင့် ဤပညာရပ်များကို လေ့လာသင်ယူဆည်းပူးရန် မဖြစ်မနေ လိုအပ်လာခြင်းဖြစ်သည်။

➬ ဥရောပတို့သည် အရှေ့တိုင်းကို နယ်ချဲ့ပြီးနောက်တွင် ယင်း အရှေ့တိုင်းဝါဒီများ၏ လေ့လာမှုနယ်ပယ်သည် ပို၍ ကျယ်ပြန့်လာပေသည်။ သို့ဖြစ်ပေရာ အရှေ့တိုင်းရှိ ဘာသာတရားများ၊ ယဉ်ကျေးမှုများ၊ အကျင့်ဓလေ့များ၊ ပထဝီဆိုင်ရာ အချက်အလက်များ၊ ထုံးတမ်းများနှင့် အရှေ့တိုင်းရှိ နာမည်ကျော် ဘာသာစကားများကိုပါ လေ့လာကြပေသည်။

## အရှေ့တိုင်းဝါဒီတို့၏ ရည်ရွယ်ချက်များအကောင်းအထည်ဖော်ရန် လုပ်ဆောင်သည့် အကြောင်းခံများ။

❶ အရှေ့တိုင်းဝါဒီတို့သည် အစ္စလာမ်၊ ကုရ်အာန်၊ ဟဒီးစ်၊ အစ္စလာမ့်သမိုင်း၊ အစ္စလာမ့်အမွေအနှစ်များနှင့် ပတ်သက်၍ စာအုပ်များ၊ မဂ္ဂဇင်းများ ရေးသားထုတ်ဝေခြင်း၊ အစုအဝေးများနှင့် တက္ကသိုလ်များတွင် ယင်းအကြောင်းအရာများနှင့် ပတ်သက်သည့် ဟောပြောပွဲများပြုလုပ်

ခြင်းများဖြင့် အစ္စလာမ့်ကမ္ဘာရှိ ပညာရေးနယ်ပယ်ထဲသို့ ဝင်ရောက်ခဲ့ပေ သည်။

❷ အရှေ့တိုင်းဝါဒီများသည် ယင်းတို့၏ ရည်ရွယ်ချက်များကို အကောင်အထည်ဖော်ပေးမည့် စင်တာများ အဖွဲ့အစည်းများ တည်ထောင်ကြသည်။ ယင်းတို့သည် 《၁၇၈၇》နှစ်ကတည်းကပင် အမေရိက၊ ဗြိတိသျှနှင့် ပြင်သစ်တို့တွင် အရှေ့တိုင်းနှင့်ပတ်သက်သည့်အရာများကို လေ့လာရန် နှိုးဆော်ပေးသည့် အဖွဲ့အစည်းများကို များစွာဖွဲ့စည်းခဲ့ပေ သည်။

❸ အရှေ့တိုင်းဝါဒီများသည် အစ္စလာမ့်နိုင်ငံများတွင် မဂ္ဂဇင်းများထုတ်ဝေခြင်းနှင့်အတူ များစွာသော နယ်ခံသတင်းစာတိုက်များကိုလည်း ဝယ်ယူနိုင်ခဲ့သည်။ ထို့နောက် ယင်းတို့ ထုတ်ဝေသည့် မဂ္ဂဇင်းများတွင် အန္တရာယ်အရှိဆုံးမဂ္ဂဇင်းမှာ 《၁၉၁၁》 ခုနှစ်တွင် **Samuel Marinus Zwemer** တည်ထောင်သည့် 《العالم الإسلامي》 အစ္စလာမ့်ကမ္ဘာ မဂ္ဂဇင်းပင် ဖြစ်သည်။ ယင်းမဂ္ဂဇင်းကို အမေရိကန်နိုင်ငံမှ ထုတ်ဝေခြင်းဖြစ်သည်။ ထို့နောက် ယင်းအရှေ့တိုင်းဝါဒီများထုတ်ဝေသည့် အရှေ့တိုင်းဆိုင်ရာ သတင်းစာတ်ပုံများနှင့် မဂ္ဂဇင်းများသည် သုံးရာကျော် ရှိပေ သည်။

❹ အရှေ့တိုင်းဝါဒီများသည် ယင်းတို့၏ အစီအစဉ်များကို ခမ္မစစ်ပုံဖော်နိုင်ရန်အတွက် ပညာရေးနာမည်ခံကာ ညီလာခံများစွာ ကျင်းပပြု

လုပ်သည်။ ပထမဆုံး ညီလာခံမှာ (၁၇၈၃) တွင် ကျင်းပ ပြုလုပ်ခဲ့သည်။ ထို့ပြင် ယင်းညီလာခံများသည် ယနေ့တိုင် ပြုလုပ်နေခြင်းဖြစ်ရာ ၎င်းတို့ ပြုလုပ်သည့် ညီလာခံစုစုပေါင်းမှာ (၂၆)ခုကျော် ရှိပြီဖြစ်သည်။

❺ အရှေ့တိုင်းဝါဒီများသည် အစ္စလာမ့်စွယ်စုံကျမ်း ရေးသားထုတ်ဝေနိုင်ရန် အပတ်တကုတ်ကြိုးစားခဲ့ကြပြီး ယင်းအတွက် မိမိတို့၏ ခွန်အားအကုန်သုံးကာ လုပ်ဆောင်ခဲ့ကြသည်။ ယင်းကိစ္စအတွက် အစ္စလာမ်ကို အမုန်းတရားအထားဆုံး အရှေ့တိုင်းဝါဒီများကို ရွေးချယ်သတ်မှတ်၍ လုပ်ဆောင်စေသည်။ သို့ဖြစ်ပေရာ ယင်းတို့ပြုစုသော အစ္စလာမ့် စွယ်စုံကျမ်းကြီး ထွက်ရှိလာပေသည်။ ဝမ်းနည်းစရာကောင်းသည့်အချက်မှာ ယင်းကျမ်းကြီးသည် အစ္စလာမ်ကို ရန်ငြိုးထားခြင်း၊ ပြောင်းလဲတင်ပြမှုများနှင့် အမှားအမှန် ရောနှောတင်ပြမှုများ ရှိသော်ငြားလည်း များစွာသော ပညာရှင်များ၏ မှီငြမ်းကိုးကားရာ ဖြစ်နေသည့်အချက်ပင် ဖြစ်သည်။ ဤသည် အစ္စလာမ့်ယဉ်ကျေးမှုကို မသိရှိခြင်းနှင့် ယင်းပညာတတ်အသိုင်းအဝိုင်း၏ လျော့နည်းမှု ပုံရိပ်တစ်ခုပင် ဖြစ်သည်။

❻ ပညာဒါနနှင့် လူသားအကျိုးပြုဟူ၍ ခေါင်းစဉ်တပ်ကာ အစ္စလာမ့်ကမ္ဘာ၌ ကောလိပ်များနှင့် စင်တာများကို ယင်းအရှေ့တိုင်းဝါဒီတို့က တည်ဆောက်ကြပေသည်။ ယင်းသူတို့၏ ရည်ရွယ်ချက်အစစ်အမှန်မှာ မွတ်စ်လင်မ်များနှင့်ပတ်သက်၍ လျှို့ဝှက်ကြံစည်ခြင်းနှင့် နယ်ချဲ့တို့အတွက် အလုပ်အကျွေးပြုရန် ဖြစ်သည်။ ထို့ပြင် မိမိတို့၏ ရည်ရွယ်ချက်

များကို အစ္စလာမ့်ကမ္ဘာတွင် အကောင်အထည်ဖော်ဆောင်ပေးနိုင်ရန် ရည်သန်၍ အနောက်တိုင်းတွင်လည်း မွတ်စ်လင်မ်ကလေးငယ်များအ တွက် စင်တာများကို တည်ဆောက်ကြသည်။

## အရှေ့တိုင်းဝါဒဖြစ်ပေါ်ရခြင်း၏ အကြောင်းအရင်းများ။

❖ အရှေ့တိုင်းဝါဒ အဓိကဖြစ်ပေါ်ရခြင်း၏ အကြောင်းအရင်းမှာ ဘာသာရေးသာဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ခရူးဆိတ်စစ်ပွဲသည် ဥရောပသားများ၏ စိတ်အတွင်း၌ မွတ်စ်လင်မ်များနှင့်ပတ်သက်၍ လွန်စွာ ခါးသီးမှုများ ဖြစ်ပွားစေခဲ့သည်။ ထို့ကြောင့် ယင်းဥရောပသားများက အရှေ့တိုင်းဝါဒကို ဦးတည်လုပ်ဆောင်ခဲ့ကြသည်။

❖ အရှေ့တိုင်းဝါဒ အဓိက ဖြစ်ပေါ်လာရခြင်းမှာ ဘာသာရေးကြောင့်ဖြစ်သည်ဟူ၍ အထက်တွင် ဖော်ပြခဲ့ပြီး ဖြစ်သည်။ သို့သော် ယင်းတို့၏ ရည်မှန်းချက်များသည် ထိုထက်သာပို၍ ကျယ်ပြန့်လာပြီး နယ်ချဲ့ခြင်းအတွက်ပါ လုပ်ဆောင်လာကြပေသည်။ **၁၆၂၉** ခုနှစ်တွင် ပုပ်ရဟန်းမင်းကြီးများက အစ္စလာမ်နှင့်ပတ်သက်သည့် သင်ကြားရေး စင်တာတစ်ခု ဖွင့်လှစ်ရန် **Cambridge** တက္ကသိုလ်၏ တာဝန်ခံများသို့ စာလွှာရေးသားပေးပို့ခဲ့သည်။ ယင်းစာလွှာတွင် "ထိုစင်တာသည် အရှေ့တိုင်းစီးပွား ရေးနယ်ပယ်နှင့် အနောက်တိုင်းစီးပွားရေးနယ်ပယ်များကို နိုင်ငံအကျိုးစီးပွားအတွက် ချိတ်ဆက်ခြင်း၊ ခရစ်ယာန်ဘုရားကျောင်းကွန်

ယက်များကို ချဲ့ခြင်း၊ ယင်းတို့အဆိုရ လမ်းမှား၌ တဝဲလည်လည်ဖြစ်နေသော မွတ်စ်လင်မ်များကို လမ်းမှန်ပြသ၍ ခရစ်ယာန်ဘာသာဘက်သို့ ဖိတ်ခေါ်ခြင်းစသည့် ကိစ္စရပ်များကို လုပ်ဆောင်ရမည်။

❖ ခရစ်နှစ် 《၅》 ရာစုနှစ်မှ 《၁၄》 ရာစုနှစ်အဆုံးပိုင်းထိအချိန်ကို သမိုင်း၌ ဥရောပ၏ အလယ်အမှောင်ခေတ်ဟု ခေါ်ဆိုကြပေသည်။ ထိုချိန်တွင် ဥရောပက စပိန်နိုင်ငံရှိ အစ္စလာမ့်ယဉ်ကျေးမှုများနှင့် ချိတ်ဆက်၍ ရှင်သန်ရပေသည်။ သို့ဖြစ်ပေရာ ဖရန့်(အနောက်ဂျာမနီအနွယ်စု)များသည် စပိန်နိုင်ငံသို့လာရောက်၍ အစ္စလာမ့်ယဉ်ကျေးမှုနှင့် ပညာနို့ချိုကို သောက်သုံးရပေသည်။ ဤသည် ယနေ့ခေတ် ဥရောပတို့ ရုပ်ဝတ္ထုပိုင်းဆိုင်ရာ တိုးတက်မှုများ၏ အဓိကသော့ချက်ပင် ဖြစ်သည်။ အရှေ့တိုင်းဝါဒပေါ် ပေါက်လာရခြင်း၏ ဤပုံစံသည် စတင်ဖြစ်ပေါ်လာချိန်၌ အစ္စလာမ့်ရန် သူအဖြစ်နှင့် ဖြစ်ပေါ်လာခြင်း မဟုတ်ပေ။ သို့သာမက ယင်းအကြောင်းခံဖြင့် များစွာသော ဥရောပသားများက အစ္စလာမ်သာသနာအတွင်းသို့ ဝင်ရောက်လာခဲ့ကြသည်။

## အအရှေ့တိုင်းဝါဒ၏ ရည်ရွယ်ချက်များ။

❶ အစ္စလာမ်သာသနာကို ထိုးနှက်ခြင်း၊ အစ္စလာမ့်အလှတရားများကို သရုပ်ဖျက်ခြင်း။

❷ မွတ်စ်လင်မ်များကြား၌ ခရစ်ယာန်သာသနာပြုခြင်း၊ အသင်းကွဲများပေါ်ပေါက်ရန်ကြိုးပမ်းခြင်း၊ သာသနာနှင့်ပတ်သက်သည့် သံသယများ

ထည့်ပေး၍ နာမ်ပိုင်းဆိုင်ရာ အစ္စလာမ့်အင်အားကို လျော့နည်းစေခြင်း။

❸ အစ္စလာမ့်အလုတရားများနှင့် မဏ္ဍိုင်ကြီးများကို သရုပ်ဖျက်၍ ရုပ်ဝတ္ထုကိုအခြေပြုသည့် အရင်းရှင်မူဝါဒအား ချီးမြှောက်ခြင်းဖြင့် အစ္စလာမ့်နိုင်ငံများ၌ နယ်ချဲ့မှုပြုခြင်း။

## အရှေ့တိုင်းဝါဒီများအနက်မှ နာမည်ကျော် ပုဂ္ဂိုလ်များနှင့် ယင်းတို့၏ ကျမ်းများ။

၁ **Arthur john Arberry** သည် အစ္စလာမ်ကိုဆန့်ကျင်သော အယူဝါဒကြီးသူဖြစ်သည်။ ထို့နောက် ယင်းသည် အစ္စလာမ့် စွယ်စုံကျမ်းရေးသူများအနက်မှ ဖြစ်သည်။ ဝမ်းနည်းစရာကောင်းသည့်အချက်မှာ ယင်းပုဂ္ဂိုလ်သည် အင်္ဂလိပ်ဘာသာရပ်နှင့် အစ္စလာမ့်လေ့လာမှုဆိုင်ရာ ဘာသာရပ်များဖြင့် ဘွဲ့ရရှိသည့် အီဂျစ်ပညာရှင်အများစု၏ ဆရာပင် ဖြစ်သည်။ ယင်းပုဂ္ဂိုလ်ရေးသားပြုစုထားသော ကျမ်းအချို့မှာ “ကုရ်အာန်ဘာသာပြန်၊ ယနေ့ခေတ်အစ္စလာမ်” တို့ဖြစ်သည်။

၂ **မာဂျလိယို (David Samuel margoliouth)** သည် အစ္စလာမ်ကိုဆန့်ကျင်သော အယူဝါဒကြီးသူဖြစ်သည်။ ယင်းသည်လည်း အစ္စလာမ့်စွယ်စုံကျမ်းရေးသားသူအနက်မှ ဖြစ်သည်။ ထို့နောက်

ယင်းသည် အီဂျစ်ဘာသာစကားဗေဒအဖွဲ့နှင့် ဒမားစကပ်မြို့ရှိ ပညာရေးအဖွဲ့အစည်း၏ အဖွဲ့ဝင်လည်းဖြစ်သည်။ ယင်းပုဂ္ဂိုလ်ပြုစုထားသော ကျမ်းဂန်များမှာ "မုဟမ္မဒ်နှင့် အစ္စလာမ့်အစ" ဖြစ်သည်။

၃ **Vinsink (Arent Jan Wensinck)** သည် အစ္စလာမ်ကို ဆန့်ကျင်သော အယူဝါဒကြီးသူတစ်ဦးဖြစ်သည်။ ယင်းသည် အီဂျစ်ဘာသာစကားဗေဒ၏ အဖွဲ့ဝင်တစ်ဦးဖြစ်သည်။ ထို့နောက်တွင် ယင်းအဖွဲ့မှ ထုတ်ပယ်ခြင်းခံခဲ့ရသည်။ ယင်းပုဂ္ဂိုလ်ပြုစုထားသော ကျမ်းများအနက် အချို့မှာ– "အစ္စလာမ့် ယုံကြည်ချက်" ဖြစ်သည်။

## အရှေ့တိုင်းဝါဒီများကို အလုပ်အကျွေးပြုကြသူများ

အရှေ့တိုင်းဝါဒီများသည် မိမိတို့၏ အတွေးခေါ်များကို အစ္စလာမ့်ကမ္ဘာတွင် ဖြန့်ကျက်ကြသောကြောင့် ယင်းအတွေးအခေါ်များကို နောက်လိုက်၍ အလုပ်အကျွေးပြုသူများ ပေါ်ပေါက်လာပေသည်။ ယင်းတို့သည် မူရင်းအရှေ့တိုင်းဝါဒီများထက်ပင် အစ္စလာမ်အတွက်ပို၍ အန္တရာယ်ရှိပေသည်။ ယင်းသူများ၏ လုပ်ဆောင်ချက်များသည် သင်ကြားရေးကဏ္ဍ၊ မီဒီယာကဏ္ဍနှင့် စာအုပ်ထုတ်ဝေခြင်းကဏ္ဍများတွင် အလွန်ပင် သက်ရောက်မှုများ ရှိပေသည်။ ၎င်းတို့အနက်မှ အချို့မှာ–

⦿ **ဖိလစ်ပင် (Philip hitti)** သည် အမေရိကန်နိုင်ငံသားခံယူထားသော လက်ဘနွန်နိုင်ငံဖွားတစ်ဦး ဖြစ်သည်။ ယင်းသည် အစ္စလာမ်ကို အမုန်းတရားထားသူများအနက်မှ ဖြစ်ပြီး ယင်း၏ စာအုပ်များသည် အစ္စလာမ်နှင့်ပတ်သက်၍ အမုန်းတရားထားရှိမှုများနှင့် ရန်ငြိုးထားမှုများဖြင့် ပြည့်နှက်နေသည်။ ယင်းသည် အရှေ့အလယ်ပိုင်းနှင့်ပတ်သက်၍ အမေရိကန်နိုင်ငံခြားရေးဝန်ကြီးရုံး၌ အတိုင်ပင်ခံဖြစ်သည်။

⦿ Aziz Surial Attia (عزيز سوريال عطية) သည် အီဂျစ်နိုင်ငံသား ခရစ်ယာန်ဘာသာဝင်ဖြစ်သည်။ ယင်းသည် အလက်ဇန္ဒြီးယား တက္ကသိုလ်၏ ကျောင်းဆရာ တစ်ဦးဖြစ်သည်။ ထို့နောက် အစ္စလာမ်ကို အလွန်ပင်မုန်းတီးသူ တစ်ဦးလည်းဖြစ်သည်။ ထို့ပြင် ၎င်းသည် အစ္စလာမ့် မဏ္ဍိုင်ကြီးများနှင့်ပတ်သက်၍ အလွန်ပင် အပြောင်းအလဲများပြုသူ ဖြစ်သည်။

⦿ **မဂျီးဒ် ကူဒူရီ (مجيد قدوري)** သည် ခရစ်ယာန်ဘာသာဝင် အီရတ်နိုင်ငံသားဖြစ်သည်။ ယင်းသည် အစ္စလာမ်ကို ဆန့်ကျင်သော အယူကြီးသူဖြစ်သည်။ ၎င်း၏ သားများသည် အမေရိက တက္ကသိုလ်များတွင် တာဝန်ထမ်းဆောင်ကြသည်။ ၎င်းပြုစုသော စာအုပ်များသည် အစ္စလာမ့်အမုန်းတရားများဖြင့် ပြည့်နှက်နေသည်။ ၎င်းထုတ်ဝေသော စာအုပ်များအနက်မှ **“အစ္စလာမ်၌ စစ်နှင့်ငြိမ်းချမ်းရေး”** စာအုပ်သည် တစ်အုပ်အပါအဝင်ဖြစ်သည်။

## သုတေသနပြုရာ၌ အရှေ့တိုင်းဝါဒီတို့၏ အဓိကစံနှုန်းများ

➤ အရှေ့တိုင်းဝါဒီများသည် မိမိတို့ လိုလားသည့် အတွေးများကို ဦးနှောက်အတွင်းပုံဖော်ပြီးနောက် ယင်းအတွေးများကို အတည်ပြုနိုင်ရန် အထောက်အထားများကို ကြိုးစား ရှာဖွေကြသည်။ ထိုသို့ အကိုးအကားပြုရာ၌ အထောက်အထား ခိုင်လုံခြင်း၊ မခိုင်လုံခြင်းနှင့် မူရင်းကိုးကားရာ ကျမ်းရှိခြင်း မရှိခြင်းတို့ကို ဂရုမပြုပေ။ မိမိတို့၏ စိတ်ကူးစိတ်သန်းနှင့် ရည်မှန်းချက်ကို အကောင်အထည် ဖော်နိုင်ရေးသာ ဂရုပြုကြပေသည်။

➤ အရှေ့တိုင်းဝါဒီများသည် မိမိတို့ပြုစုသည့် ကျမ်းများတွင် ဟဒီးစ်တော်များကို အနုပညာဆန်သော ကျမ်းဂန်များမှ ကောက်နုတ်ချက်များဖြင့် မှတ်ချက်ပြုပေသည်။ ပမာဆိုရသော် ﴿حياة الحيوان﴾တွင် အေမာမ်ဒင်မ်ယရီ၏ ဖော်ပြချက်ဖြင့် အေမာမ်မာလစ်က်၏ ﴿موطا﴾ ကျမ်းမှ ဟဒီးစ်တော်များကို မှားယွင်းသည်ဟု မှတ်ချက်ပေးသည်။ ထိုသို့လေ့လာသမှုပြုရာ၌ လျော့နည်းမှုရှိခြင်းကို ယင်းအရှေ့တိုင်းဝါဒီများ အနက်မှ **Cambridge** တက္ကသိုလ်၏ အစ္စလာမ့်ရေးရာကဏ္ဍနှင့်ပတ်သက်သည့် စင်တာအကြီးအကဲ **Arthur john Arberry** က ဤသို့ဆိုသည်။ “အစ္စလာမ်နှင့်ပတ်သက်သည့် အကြောင်းအရာများကို လေ့လာရာတွင်

ကျွန်တော်တို့ အရှေ့တိုင်းဝါဒီများသည် များစွာသော အမှားများကို ပြုလုပ်မိကြသည်။ သို့ပါ၍ ကျွန်တော်တို့သည် ယင်းနယ်ပယ်များတွင် ဝင်ရောက်စွက်ဖက်မှု မပြုသင့်ပေ။ သို့သာမက အသင်တို့ မွတ်စ်လင်မ်များသည်သာ ယင်းကဏ္ဍများ၌ အကျွမ်းကျင်ဆုံး ဖြစ်သည့်အလျောက် အသင်တို့သာ လုပ်ဆောင်သင့်ပေသည်။

## အရှေ့တိုင်းဝါဒကြောင့်ဖြစ်ပေါ်လာသည့် အကျိုးဆက်များ

❀ အရှေ့တိုင်းဝါဒီများသည် များစွာသော စောဒကများနှင့် သံသယများကို ဖြန့်ကျက်ကြပြီး ယင်းတို့၏ နောက်လိုက်များကမူ လိုက်လံကျင့်သုံးကြပေသည်။ ဤသို့ဖြင့် များစွာသောနေရာများတွင် စောဒကများနှင့် သံသယများကို တွင်ကျယ်စေသည်။ ပမာအားဖြင့်ဆိုရသော် **William Willcocks** သည် အာမီယာဟ် ဘာသာစကား (အရဗီဈေးသုံးစကား၊ အရဗီဗန်းစကား)ကို တွင်ကျယ်ရန် ပြုခဲ့ရာ ယင်းနောက်လိုက်များဖြစ်သော **سلامة موسى** နှင့် **لطفي السيد** တို့က လိုက်လံအကောင်အထည် ဖော်ကြပေသည်။ ဤသို့ပင် **lord cromer** သည် ဖာရိုးနစ်ဝါဒ (ရှေးအီဂျစ်ယဉ်ကျေးမှုကို အခြေခံ၍ အီဂျစ်နိုင်ငံ၏ ယဉ်ကျေးမှုကို ထိုအတိုင်းဖြစ်ရန် ကြိုးပမ်းခြင်း)ကို စတင်ခဲ့ရာ ယင်း၏ နောက်လိုက်များဖြစ်သော **طه حسين** နှင့် **لطفي السيد** တို့က လိုက်လံအကောင်အထည်ဖော်ကြသည်။

❀ အရှေ့တိုင်းဝါဒီများနှင့် ယင်းတို့နောက်လိုက်များက အစ္စလာမ့်ကမ္ဘာရှိ ယဉ်ကျေးမှု၊ အတွေးအခေါ်၊ သင်ကြားရေး စသည့်ကဏ္ဍများတွင် လှုပ်ရှားခြင်းကြောင့် နေရာတိုင်းရှိ အရဗီသတင်းစာနှင့် စာပေများတွင်ပါ ထိုဝါဒ၏ ကြိုးစားမှု ရလဒ်များကို တွေ့ရှိနေရပေသည်။

❀ အစ္စလာမ့်နိုင်ငံများတွင် မွတ်စ်လင်မ်တို့၏ သာသနာရေးနှင့် အတွေးအခေါ်ပိုင်းဆိုင်ရာ ကဏ္ဍများကိုပါ ချုပ်ကိုင်နိုင်ရန် အစ္စလာမ့်ကမ္ဘာနှင့် ပတ်သက်သည့် အနောက်တိုင်းနိုင်ငံရေး ပေါ်လစီများတွင် ယင်းအရှေ့တိုင်းဝါဒီများက ဝင်ရောက်စွက်ဖက်လုပ်ကိုင်လာကြပေသည်။

# (၁၄) ရှီအာ

## 1 ရှီအာ

### အဓိပ္ပာယ်ဖွင့်ဆိုချက်။

اَلتَّشَيُّعُ ဆိုသည်မှာ အရဗီစာပေအရ အချင်းချင်းကူညီခြင်း၊ မိတ်ဆွေဖွဲ့ခြင်းဖြစ်သည်။ ထိုစကားလုံးမှ ဆင့်ပွားပြောင်းလဲလာသည့် اَلشِّيْعَةُ ဆိုသည်မှာ နောက်လိုက်များ၊ ကူညီသူများဟု အဓိပ္ပာယ်ရသည်။ ထို့နောက် ယင်းစကားလုံးကို ဟဇရသ်အလီ(ﷺ)နှင့် အဟ်လေ့ဗိုင်းသ်အား ကူညီသူများကို ခေါ်ဆိုသုံးနှုန်းလာကြသည်။ ထိုမှတဆင့် ဇိုက်ဒီယာ၊ ရာဖွိဒ္ဒီယာ အယူဝါဒရှိသူများ၏ အမည်ဖြစ်လာပေသည်။

### ရှီအာအယူဝါဒ အဆင့်ဆင့်ပြောင်းလဲလာပုံ။

1 ပထမပိုင်းတွင် ရှီအာဆိုသည်မှာ မည်သည့်ဆွဟာဗဟ်ကြီးများကိုမျှ ပုတ်ခတ်ခြင်းမရှိဘဲ အဟ်လေ့ဗိုင်းသ်နှင့် ဟဇရသ်အလီ(ﷺ)အား ချစ်နှစ်သက်သူများကို ခေါ်ဆိုသည်။

2 ထို့နောက် ယင်းရှီအာတို့သည် ဟဇရသ်အလီ《ﷺ》သခင်၊ အချို့အဟ်လေ့ဗိုင်းသ်များနှင့် ပတ်သက်၍ အစွန်းရောက်လာကြပေသည်။ ထို့ပြင် အခြားသော ဆွဟာဗဟ်ကြီးများကို ပုတ်ခတ်ပြောဆိုခြင်း၊ ကာဖိရ်အဖြစ်သတ်မှတ်ခြင်း၊ လိမ်လည်လှျင် အကျိုးစဝါးဗ်ရရှိခြင်းကဲ့သို့သော အစ္စလာမ်နှင့် လုံးလုံးမသက်ဆိုင်သည့် ယုံကြည်ချက်များထား ရှိလာကြပေသည်။

3 ထို့နောက် ယင်းတို့သည် ဟဇရသ်အလီ《ﷺ》နှင့် ၎င်း၏နောက်တွင် လာရှိသော အေမာမ်များကိုပါ ကိုးကွယ်ရာအရှင်အဖြစ်သတ်မှတ်ကြပေသည်။ ထို့ပြင် သံသရာလည်ခြင်းနှင့် ကာဖိရ်ဖြစ်စေသည့် ယုံကြည်ချက်များကို ထားရှိကြပေသည်။

## ရှီအာအယူဝါဒ၏ ဂိုဏ်းကွဲများ။

ရှီအာ အယူဝါဒတွင် ဂိုဏ်းကွဲပေါင်း များစွာရှိပေသည်။ အချို့ပညာရှင်များကမူ ဂိုဏ်းကွဲပေါင်း 《၃၀၀》ထိ ရေတွက်ကြပေသည်။ ယနေ့ခေတ်၌ ရှီအာ၏ ပင်မဂိုဏ်းကြီးများမှာ 《၃》 ဂိုဏ်းရှိပေသည်။ ၎င်းတို့မှာ-

**ရှီအာ**

1. **အစ်နာအရှရီယာ**
2. **ဇိုက်ဒီယာ**
3. **အစ္စမာအီလီယာ**

တို့ဖြစ်သည်။

## 1 အစ်နာအရှရီယာ

### အဓိပ္ပာယ်ဖွင့်ဆိုချက်

အစ်နာအရှရီယာဆိုသည်မှာ جَعْفَرٌ الصَّادِقُ ကိုအခြေခံ၍ ဂျအ်ဖရီယာဟ်၊ ရာဖိဇွီယာဟု အမည်မှည့်ခေါ်တွင်ကြသည့်သူများကို ခေါ်ဆိုပါသည်။ ယင်းတို့ကို အစ်နာအရှရီယာဟု ခေါ်ဆိုရခြင်းမှာ ၎င်းတို့သည် အေမာမ် ﴿၁၂﴾ပါးရှိသည်ဟူသော ယုံကြည်ချက်ကို လက်ကိုင်ထားကြသည့်အတွက်ကြောင့် ဖြစ်သည်။ ထိုဂိုဏ်းဝင်များသည် ရှီအာ၌ အများစု ဖြစ်သည်။

## အစ်နာအရှရီယာဂိုဏ်း ပေါ်ပေါက်လာပုံ

ယင်းဂိုဏ်းဝင်များသည် အီရတ်၊ အီရန်၊ ဆီးရီးယား၊ လက်ဘနွန်၊ ပါကစ္စတန်၊ အာဖဂန်နစ္စတန်အနောက်ပိုင်း၊ Al-Ahsa နှင့် မဒီနာ တို့တွင် နေထိုင်ကြသည်။ ယင်းတို့၏ ယုံကြည်ချက်များသည် Sabaeans ဂိုဏ်းမှ ဆင်းသက်လာပေသည်။ ယင်း Sabaeans ဂိုဏ်းကို စတင်တည်ထောင်သူမှာ عَبْدُ اللهِ بْنُ سَبَأٍ ဖြစ်သည်။ ယင်းသည် အလီ《رضي الله عنه》ကို အေမာမ်အဖြစ်ယုံကြည်၍ ကေယာမသ်မတိုင်မီတွင် ကမ္ဘာသို့ ပြန်လည် ရောက်ရှိလာမည်ဟု ကြွေးကြော်သည်။ ထို့ပြင် ကျန်ခလီဖာကြီး《၃》ပါး၊ အခြားအခြားသော ဆွဟာဗဟ်ကြီးများနှင့်ပတ်သက်၍ ဆဲဆိုခြင်း များပြုပေသည်။ ဤလုပ်ရပ်များသည်ပင် အစ်နာအရှရီယာဂိုဏ်း၏ အဓိက ယုံကြည်ချက်များပင် ဖြစ်သည်။

## အစ်နာအရှရီယာဂိုဏ်း၏ အဓိက ယုံကြည်ချက်များ

### အေမာမ်ဆိုင်ရာယုံကြည်

အစ်နာအရှရီယာများသည် ယင်းတို့သတ်မှတ်ထားသည့် ပုဂ္ဂိုလ်《၁၂》ဦး အေမာမ်ဖြစ်ခြင်း ယုံကြည်ချက်ကို အစ္စလာမ့်မဏ္ဍိုင်တစ်ခု အဖြစ် သတ်မှတ်ထားကြသည်။ ယင်းတို့ထံပါး၌ "အေမာမ်ဖြစ်ခြင်းမှာ ဘုရားသခင်အဆင့်နည်းတူဖြစ်သည်။ ထို့နောက် အေမာမ်သည်လည်း

နဗီတမန်တော်များကဲ့သို့ ဝဟီရရှိ၍ မိုအ်ဂျေဇာများဖြင့် ထောက်ခံခြင်းခံရသူဖြစ်သည်။ ၎င်းနောက် ယင်းအေမာမ်သည် အပြစ်ကင်းစင်သူဖြစ်သည်။ ယင်းအေမာမ်ကြီးများသည် ဖြစ်ပျက်ခဲ့သမျှနှင့် နောင်လာမည့် ကိစ္စရပ်များကိုပါ အကြွင်းမဲ့သိရှိသူများဖြစ်သကဲ့သို့ မိမိတို့ကွယ်လွန်မည့်နေ့ကိုလည်း အကြွင်းမဲ့ သိရှိသူများဖြစ်ကြသည်။ ထိုသို့ ကွယ်လွန်ခြင်းသည်လည်း ယင်းတို့ဘက်မှ ရွေးချယ်ခြင်းအရသာ ဖြစ်သည်”ဟု အစ်နာအရှရီယာများက ယုံကြည်ထားကြပေသည်။

အစ်နာအရှရီယာများသည် ယင်းတို့၏ အခြေအမြစ်မရှိသည့် ယုံကြည်ချက်များအရ ဆွဟာဗဟ်《၄》 ပါး(သို့) 《၇》ပါးမှအပ အခြားဆွဟာဗဟ်များသည် မုရ်သဒ်ဖြစ်ကြောင်း ကြွေးကြော်ကြသည်။ ထို့နောက် ယင်းတို့၏ အဆိုအရ ဆွဟာဗဟ်ကြီးများ မုရ်သဒ်ဖြစ်ရခြင်း၏ အကြောင်းအရင်းမှာ ၎င်းဆွဟာဗဟ်ကြီးများသည် ဦးစွာပထမ ဟဇရသ်အဗူဗက်ရ်ကို ခလီဖဟ်အဖြစ်ခန့်အပ်ခဲ့သောကြောင့် ဖြစ်သည်ဟု ဆိုကြသည်။

## ကုရ်အာန်ကျမ်းတော်မြတ်နှင့်ပတ်သက်၍ မဟုတ်မမှန်ပြောဆိုခြင်း

ကုရ်အာန်ကျမ်းတော်မြတ်တွင် ယင်းတို့၏ အေမာမ်《၁၂》ပါးနှင့်ပတ်သက်၍ ဖော်ပြချက်တစ်စုံတစ်ရာ မရှိသည့်အပြင် အာယသ်တော်များသည် ဆွဟာဗဟ်ကြီးများကို ချီးမွမ်းထားခြင်းများကိုသာ ဖော်

ပြထားသောအခါ ယင်းတို့က မိမိတို့၏ နောက်လိုက်များ ကျေနပ်စေရန် ဤသို့ပြောဆိုကြသည်။ "မုချ ဆွဟာဗဟ်များကို ဆဲဆိုထားသည့် အာယသ်တော်များသည် ကုရ်အာန်မှ ဖြုတ်ချခြင်း ခံထားရပေသည်။" ဤစကားရပ်သည် ယင်းတို့ကို ကာဖိရ်အဖြစ်သတ်မှတ်ရန် လုံလောက်ပေသည်။

## သကီယဟ်ပြုခြင်း

သကီယဟ်ဆိုသည်မှာ စိတ်တွင်းဖုံးကွယ်ထားသည်နှင့် ဆန့်ကျင်ဘက်ကို အပ်လေ့စွန္နသ်ဝလ်ဂျမာအသ်အဖွဲ့ဝင်များအား ထုတ်ဖော်ပြခြင်း ဖြစ်သည်။ ဤသည် မုချ လိမ်လည်မှုတစ်ရပ်ပင် ဖြစ်သည်။ ထို့ပြင် ယင်းတို့သည် ထိုသကီယဟ်ပြုခြင်းကို သာသနာ၏ ဆယ်ပုံပုံ ကိုးပုံဟု သတ်မှတ်ကြသည်။



## 2 ဇိုက်ဒီယာ

ဇိုက်ဒီယာဆိုသည်မှာ زَيْدُ بْنُ عَلِيِّ بْنِ الحُسَيْنِ ၏ နောက်လိုက်များဖြစ်သည်။ ယင်းအဖွဲ့သည် အဟ်လေ့စွန္နသ်ဝလ်ဂျမအာသ်နှင့် အနီးစပ်ဆုံး အဖွဲ့ဖြစ်သည်။ သို့သော် ၎င်းတို့က ဟဇရသ် အလီသည် ဟဇရသ် အွတ်ဆ်မားန်ထက် သာပိုမွန်မြတ်သည်ဟု လက်ခံကြသည်။ သို့သော် ယင်းအဖွဲ့၏ အဖွဲ့ခွဲတစ်ခုဖြစ်သည့် اَلجَارُوْدِيَّةُ (ဂျာရူဒီယဟ်) အဖွဲ့သည် ဇိုက်ဒီယာအမည်တပ်ထားသော်လည်း စင်စစ်သော်ကား ရာဖွိဒ္ဒီယာ ဂိုဏ်းဝင်အဖွဲ့သာ ဖြစ်သည်။

➪ ဇိုက်ဒီယာအများစုသည် ယီမင်နိုင်ငံတွင် နေထိုင်ကြသည်။

## 3 အစ္စမာအီလီယာ

### အဓိပ္ပာယ်ဖွင့်ဆိုချက်

အစ္စမာအီလီယာဆိုသည်မှာ إِسْمَاعِيْلُ بْنُ جَعْفَرٍ الصَّادِقُ ၏ နောက်လိုက်သူများကို ခေါ်ဆိုသည်။ ယင်းတို့သည် ၎င်းကို အေမာမ်အဖြစ် ယုံကြည်ထားကြသည်။ ထို့ကြောင့် ယင်းပုဂ္ဂိုလ်ကို အခြေခံ၍ အစ္စ

မာအီလီယာဟု ၎င်းနောက်လိုက်များကို ခေါ်ဆိုကြပေသည်။ ယင်း ပုဂ္ဂိုလ်၏ ဘွဲ့ထူးများအနက် အကျော်ကြားဆုံး ဘွဲ့ထူးမှာ اَلْبَاطِنِيَّةُ ဖြစ်သည်။ ဆိုလိုသည်မှာ အများသူငါသည် အပေါ်ရံ အသိပညာများကိုသာ သိကျွမ်းကြပြီး အေမာမ်များမှာမူ နက်ရှိုင်းသည့် အသိပညာများကို သိမြင်ကြသောကြောင့် اَلْبَاطِنِيَّةُဟု ဘွဲ့ထူးတပ်ကာ ခေါ်ဆိုခံရခြင်းဖြစ်သည်။

## အစ္စမာအီလီယာဂိုဏ်း ဖြစ်ပေါ်လာပုံသမိုင်း

ဤဝါဒသည် အခြားသော ရာဖိဒ္ဒီယာဂိုဏ်းများကဲ့သို့ အီရတ်၌ ပင် ပေါ်ပေါက်လာသော ဂိုဏ်းတစ်ခုဖြစ်သည်။ အကြောင်းမှာ မဂျူစီ (မီးကိုးကွယ်သူများက) အစ္စလာမ့်အင်အားကို တွန်းလှန်၍ မရခြင်းကို သိရှိလာကြသောအခါ ယင်းတို့၏ စိတ်အတွင်း၌ အစ္စလာမ်နှင့်ပတ်သက်၍ မနာလိုအမုန်းတရားများ ထားရှိလာကြပေသည်။ ထို့ပြင် အစ္စလာမ်သာသနာကို လက်နက်အင်အားဖြင့် အောင်နိုင်ရန် မဖြစ်နိုင်သည်ကို ရိပ်စားမိလာသောအခါ အစ္စလာမ့်အတွင်း၌ ကြံစည်မှုများပြုလုပ်ရန် ရည်ရွယ်လာကြပေသည်။ သို့ဖြစ်ပေရာ ميمون القداح ဆိုသူ ဦးဆောင်၍ အဗ္ဗာစီယာမင်းဆက် ခလီဖာ مَأْمُوْنٌ ခေတ်တွင် ယင်းဝါဒကို စတင်မျိုးစေ့ချခဲ့သည်။ ထို့နောက် ယင်းဝါဒ၏ ဥပဒေသများကိုလည်း ပြဌာန်းအတည်ပြုခဲ့ပေသည်။

## အစ္စမာအီလီယာဂိုဏ်းဝင်များ နေထိုင်သည့် ဒေသများ

အစ္စမာအီလီယာဂိုဏ်းဝင်များသည် အစ္စလာမ့်ကမ္ဘာအနှံ့တွင် နေထိုင်ကြပေသည်။ သို့သော် ယင်းဂိုဏ်းဝင်အများစု နေထိုင်ကြသည့် နိုင်ငံများမှာ အာရေဗျကျွန်းစွယ်ရှိ တောင်ပိုင်းဒေသ၊ အာဖရိက၏ တောင်ပိုင်းဒေသနှင့် အလယ်ပိုင်းဒေသများဖြစ်သည်။ ထို့ပြင် ဆီးရီးယားနိုင်ငံ၊ ပါကစ္စတန်နိုင်ငံနှင့် အိန္ဒိယနိုင်ငံများတွင်လည်း ယင်းဂိုဏ်းဝင်များစွာကို တွေ့ရှိနိုင်ပေသည်။

## အစ္စမာအီလီယာဝါဒ၏ ယုံကြည်ချက်များ

အစ္စလာမ့်ပညာရှင်များက အစ္စမာအီလီယာဝါဒနှင့်ပတ်သက်၍ ဤသို့အမိန့်ရှိသည်။ "ယင်းတို့၏ ဝါဒသည် အပေါ်ယံအားဖြင့် ရာဖိဇ္ဇီ လမ်းစဉ်ဟု ထင်ရသော်လည်း စောန်စင်စစ်မှာ ကုဖ်ရ်သွေဖည်ခြင်းပင် ဖြစ်ကြပေသည်။ ထို့ကြောင့် ပညာရှင်များက ယင်းတို့၏ အယူဝါဒများ နှင့်ပတ်သက်၍ အောက်ပါအတိုင်း အဆင့်ဆင့်ဖော်ပြထားပေသည်။

၁ ဒိဋ္ဌိအယူဝါဒဘက်သို့ ဖိတ်ခေါ်ခြင်း။

၂ နူဗူဝသ်ကိုငြင်းဆန်ခြင်းနှင့် ရှရီအသ်တရားတော်ကို ပယ်ဖျက် ခြင်းဘက်သို့ ဖိတ်ခေါ်ခြင်း။

၃ ပြန်လည်ရှင်ပြန်ထခြင်း၊ စစ်ကြောမေးမြန်ခံရခြင်း၊ အစားပေးခံရခြင်း စသည်တို့ကို ငြင်းဆန်ခြင်း။

၄ အစ္စလာမ့်မဏ္ဍိုင်များကို လွဲမှားစွာ အဓိပ္ပာယ်ကောက်ယူခြင်း။ ဆိုလိုသည်မှာ "အစ္စလာမ့်မဏ္ဍိုင်များ၏ အပေါ်ယံသဘောတရားများကို အများသူငါ နားလည်ကြသော်လည်း နက်ရှိုင်းသည့် သဘောတရားများကိုမူ ယင်းတို့လက်ခံထားသည့် ဒိဗ္ဗအေမာမ်များသာ သိရှိကြသည်ဟု ဆိုကြပေသည်။

ယင်းတို့သည် ကနဦးတွင် ဒိဗ္ဗအယူဝါဒကို ထုတ်ဖော်လေ့မရှိဘဲ လူများကို မိမိတို့ဝါဒဘက်သို့ ဖိတ်ခေါ်သွင်းဆောင်ကြလေသည်။ သို့ဖြစ်ပေရာ ယင်းတို့၏ ကုဖ်ရ်သွေဖည်မှုများကို အများသူငါ မသိရှိနိုင်ပေ။

## အစ္စမာအီလီယာဝါဒီများ၏ ဖိတ်ခေါ်သည့် ပုံစံများ

အစ္စမာအီလီယာဝါဒီများ၌ ဒအ်ဝသ်ပေး ဖိတ်ခေါ်ပုံ အဆင့်ဆင့်ရှိပေသည်။ ယင်းတို့၏ ယုံကြည်မှုအစစ်အမှန်ကို နောက်ဆုံး အဆင့်ရောက်ရှိမှသာ သိရှိနိုင်ပေသည်။ ပထမ အဆင့်မှာ ﴿الرِّزْق﴾ ဖိတ်ခေါ်ခံပုဂ္ဂိုလ်၏ အခြေအနေကို စမ်းစစ်ခြင်း အဆင့်ဖြစ်သည်။ နောက်ဆုံးအ

ဆင့်မှာ ﴾السَّلْخُ﴿ ယုံကြည်ချက်အားလုံးကို စွန့်လွှတ်၍ အစ္စလာမ် ဘောင်အတွင်းမှ ထွက်ခွာခြင်း အဆင့်ဖြစ်သည်။

ယင်းတို့တွင် ထိုဝါဒကို သင်ကြားပေးမည့် اَلْبَلَاءُ ကျမ်းကြီး ﴾၇﴿ကျမ်း ရှိပေသည်။

❶ اَلْبَلَاءُ ﴾ပထမတွဲ﴿ ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်းအတွင်း စတင်ဝင်ရောက်သူတိုင်း အတွက် ဖြစ်သည်။

❷ اَلْبَلَاءُ ﴾ဒုတိယတွဲ﴿ ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်း အတွင်းဝင်ရောက်ပြီးနောက် အချိန်အတိုင်းအတာတစ်ခု ထိ နေထိုင်ပြီးသူ အတွက်ဖြစ်သ်ည်။

❸ اَلْبَلَاءُ ﴾တတိယတွဲ﴿ ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်း အတွင်း တစ်နှစ်တိတိ ဝင်ရောက်ပြီးသူအတွက်ဖြစ်သည်။

❹ اَلْبَلَاغُ (စတုတ္ထတွဲ) ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်းအတွင်း (၂)နှစ်တိတိ ဝင်ရောက် ပြီးသူအတွက်ဖြစ်သည်။

❺ اَلْبَلَاغُ (ပဉ္စမတွဲ) ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်းအတွင်း (၃)နှစ်တိတိ ဝင်ရောက် ပြီးသူအတွက်ဖြစ်သည်။

❻ اَلْبَلَاغُ (ဆဋ္ဌမတွဲ) ယင်းကျမ်းသည် ၎င်းတို့ဂိုဏ်းအတွင်း (၄)နှစ်တိတိ ဝင်ရောက် ပြီးသူအတွက်ဖြစ်သည်။

❼ اَلْبَلَاغُ (သတ္တမတွဲ) ယင်းကျမ်းတွင် ထိုဂိုဏ်း၏ သရုပ်မှန်ကို ဖော်ပြထားပေသည်။

# 2 ကာဒယာနီယာ (KADIANISM)

## အဓိပ္ပာယ်ဖွင့်ဆိုချက်။

ကာဒယာနီဆိုသည်မှာ မေရ်ဇာဂိုလာမ်အဟ်မဒ်ကာဒယာနီ၏ နောက်ဂိုဏ်း ဖြစ်သည်။

### ကာဒယာနီဟုအမည်ပေးရခြင်း၏ အကြောင်းအရင်း။

ယင်းဂိုဏ်းကို ကာဒယာနီယာဟု အမည်ပေးရခြင်းမှာ မေရ်ဇာဂိုလာမ် အဟ်မဒ် နေထိုင်သည့်နေရာကို အခြေခံ၍ ပေးထားခြင်းဖြစ် သည်။

### ကာဒယာနီယာ၏ အခြားသော နာမည်များ။

ကာဒယာနီယာဝါဒီများသည် အာဖရိကနှင့်အခြားအခြားသော နယ်ပယ်ဒေသများ၌ အဟ်မဒီယာဟု မိမိကိုယ်မိမိ ခေါ်ဆိုကြသည်။ အကြောင်းမှာ မေရ်ဇာဂိုလာမ်အဟ်မဒ်ကို အခြေပြု၍ ခေါ်ဆိုခြင်း ဖြစ်သည်။

## ဖြစ်ပေါ်လာပုံသမိုင်းနှင့် မြေပြင်အခြေနေ။

ကာဒယာနီယာဂိုဏ်းကို စတင်မျိုးစေ့ချသူမှာ မေရ်ဇာဂိုလာမ် အဟ်မဒ် ဖြစ်သည်။ ယင်းသည် နယ်ချဲ့အင်္ဂလိပ်တို့ အိန္ဒိယနိုင်ငံကို သိမ်းပိုက်ပြီးနောက် ခရစ်နှစ် (၁၉)ရာစုတွင် စတင်ခဲ့သည်။

### ကာဒယာနီယာဂိုဏ်း ဖြစ်ပေါ်ရခြင်း၏ အကြောင်းအရင်းများ

- ❑ အသိပညာမဲ့မှု လွှမ်းမိုးနေသော အိန္ဒိယနိုင်ငံ၏ ပတ်ဝန်းကျင်။ ဤပတ်ဝန်းကျင်၌ ရှေးယခင်ကပင် ဘာသာတရားများနှင့် ဂိုဏ်းဂဏပေါင်းများစွာရှိပေသည်။
- ❑ ထိုအချိန်၌ အိန္ဒိယနိုင်ငံကို အင်္ဂလိပ်တို့က လွှမ်းမိုးအုပ်ချုပ်ထားခြင်း။
- ❑ ဂိုလာမ်အဟ်မဒ်က မိမိလမ်းစဉ်ဘက်သို့ ဖိတ်ခေါ်သည့်အခါ သာမာန်လူတန်းစားများကို ဖိတ်ခေါ်ခြင်း။
- ❑ ပါကစ္စတန်နိုင်ငံတည်ထောင်ပြီးနောက် နယ်ချဲ့အင်္ဂလိပ်တို့သည် ပါကစ္စတန်နိုင်ငံခြားရေး ဝန်ကြီးအဖြစ် ကာဒယာနီဂိုဏ်းဝင်တစ်ဦးအား ခန့်အပ်ခြင်း။ ထိုမှတဆင့် ၎င်းက မြို့ကြီးများတွင် သံရုံးဆိုင်ရာ ကိစ္စရပ်

များနှင့်ပတ်သက်၍ မိမိဂိုဏ်းဝင်များကို တာဝန်ပေးခန့်အပ်ကာ နိုင်ငံအတွင်း ကာဒယာနီယုံကြည်ချက်များ ဖြန့်ကျက်ခြင်း။

## ကာဒယာနီဝါဒကို မျိုးစေ့ချသူ

ကာဒယာနီဝါဒကို မျိုးစေ့ချသူမှာ غلام أحمد بن الميرزا غلام مرتضى بن عطا محمد ဖြစ်သည်။

### မွေးဖွားခြင်း

ဂိုလားမ်အဟ်မဒ်သည် ခရစ်နှစ် (၁၈၃၉/၁၈၄၀)၌ ပန်ဂျပ်ပြည်နယ် ကာဒယားန်မြို့တွင် ဖွားမြင်ခဲ့သည်။ ၎င်း၏ မိသားစုသည် ဆစ်ခ်လူမျိုးများနှင့် ကူညီရိုင်းပင်းမှု၊ မိတ်ဖွဲ့မှုများ ရှိ ပေသည်။

### ရှင်သန်ကြီးပြင်းလာပုံ

ဂိုလာမ်အဟ်မဒ်သည် ကာဒယားန်မြို့၌ပင် အခြေခံပညာ၊ ဒဿနိက၊ ယုတ္တိဗေဒနှင့် ဆေးပညာရပ်ကို သင်ယူခဲ့သည်။ ထို့နောက် အချိန်တစ်ခုထိ လခစားဝန်ထမ်းအလုပ် လုပ်ခဲ့သည်။ ၎င်းနောက် ဥပဒေရေးရာစာမေးပွဲ ဝင်ရောက်ဖြေဆိုခဲ့ရာ ထိုစာမေးပွဲတွင် ကျရှုံးခဲ့သည်။ သို့ဖြစ်

ပေရာ ၎င်းသည် မိမိပိုင်ဆိုင်သည့် လယ်ယာစီမံခန့်ခွဲမှုလုပ်ငန်းများ၌ ပြန်လည်လုပ်ဆောင်ခဲ့သည်။

## ဂိုလာမ်အဟ်မဒ်၏ ကြွေးကြော်မှုများ

ဂိုလာမ်အဟ်မဒ်သည် မိမိ၏ ဒအ်ဝသ်ပေးဖိတ်ခေါ်မှု၌ အဆင့်ဆင့် လုပ်ဆောင်ပေသည်။

❖ အိလ်ဟာမ်ပုံစံဖြင့် ဝဟီရရှိသည်ဟု ကြွေးကြော်ခြင်း။

❖ ယခုခေတ်၏ မုဂျက်ဒစ်ဒ် ဖြစ်သည်ဟု ကြွေးကြော်ခြင်း။

❖ မိုးကောင်းကင်မှ ပြန်လည် ဆင်းသက်လာမည့် တမန်တော်အီစာ ﴾عليه السلام﴿ ဖြစ်သည်ဟု ကြွေးကြော်ခြင်း။ သို့သော် ယင်းသို့ ကြွေးကြော်မှု၌ နဗီဖြစ်ပါသည်ဟု ယတိပြတ်ကြွေးကြော်ခြင်းမဟုတ်ဘဲ တစ်စိတ်တစ်ပိုင်းအရသာ နဗီဖြစ်သည်ဟု ကြွေးကြော်ခြင်း။

❖ ထို့နောက် နဗီ၊ ရစူလ်ဖြစ်သည်ဟု ယတိပြတ် ကြွေးကြော်ခြင်း။

## ဂိုလာမ်အဟ်မဒ်၏ နိဂုံး

ဂိုလားမ်အဟ်မဒ်ကာဒယာနီသည် **၁၉၀၈**ခုနှစ် မေလ **﴾၂၆﴿** ရက်နေ့တွင် ပလိပ်ရောဂါဖြင့် သေဆုံးခဲ့သည်။

## ကာဒယာနီယာ၏ ဂိုဏ်းကွဲများ

ဂိုလာမ်အဟ်မဒ် သေဆုံးပြီးနောက်တွင် نور الدين (နူရ်ရွဒ္ဒီးန်) သည် ၁၉၁၄နှစ်ထိ ယင်း၏ ခလီဖာအဖြစ် ဆက်ခံခဲ့သည်။ ထို့နောက် နူရ်ရွဒ္ဒီးန်သေဆုံးပြီးနောက်တွင် ကာဒယာနီဝါဒသည် ဂိုဏ်းနှစ်ဂိုဏ်းကွဲ သွားပေသည်။

❶

- اَلْمِيْرْزَا بَشِيْرُ الدِّيْنِ مَحْمُوْدُ بْنُ الْمُتَنَبِّي ဦး ဆောင်သည့်ဂိုဏ်း။ ယင်းဂိုဏ်းကို ကာဒ ယာနီယာ(သို့) အဟ်မဒ်ဒီယာဟုလည်း ခေါ်ဆိုသည်။

❷

- مُحَمَّدٌ عَلِيٌّ اَللَّاهُوْرِيُّ ဦးဆောင်သည့် ဂိုဏ်း။ ယင်းဂိုဏ်းကို လာဟူရီယာ(သို့) အဟ်မဒ် ဒီယာဟုလည်း ခေါ်ဆိုသည်။

ယင်းနှစ်ဂိုဏ်းလုံးသည် ဂိုလာမ်အဟ်မဒ်နောက်လိုက်၍ ယင်း၏ကျမ်း များနှင့် မိန့်ကြားချက်များကို နောက်လိုက်ကြပေသည်။ သို့သော် ပထမ အဖွဲ့သည် ဂိုလာမ်အဟ်မဒ်က နဗီဖြစ်ကြောင်းကို အတိအလင်း လက်ခံ ၍ ဒုတိယအဖွဲ့မှာမူ ဂိုလာမ်အဟ်မဒ်က ကေယာမသ်နီးတွင် ပြန်လည်

ရောက်ရှိလာမည့် တမန်တော်အီစာ(ﷺ)ဖြစ်ကြောင်းနှင့် (၁၄)ရာစုနှစ်၏ မုဂျက်ဒစ်ဒ်ဖြစ်ကြောင်းကိုသာ လက်ခံကြသည်။

## ကာဒယာနီတို့၏နေထိုင်ရာ နယ်ပယ်ဒေသများ။

ကာဒယာနီဘက်သို့ ဖိတ်ခေါ်သူများနှင့် ကာဒယာနီစင်တာများသည် အမေရိက၊ ဥရောပ၊ အာဖရိက၊ အရှေ့ပိုင်းနယ်ပယ်ဒေသများနှင့် ကမ္ဘာအနှံ့အပြားတွင် တည်ရှိပေသည်။ ယခင်စစ်တမ်းတစ်ခုအရ ယင်းတို့၏ စင်တာများမှာ (၃၁) ခုရှိပေသည်။ ယင်းတို့အနက် အဓိကအကျဆုံး စင်တာမှာ ပါကစ္စတန်နိုင်ငံရှိ **Rabwah** မြို့ဖြစ်သည်။

## ကာဒယာနီတို့၏ လှုပ်ရှားမှုများ။

ကာဒယာနီဝါဒီတို့သည် ပုံစံမျိုးမျိုးဖြင့် လှုပ်ရှားကြသည်။ အချို့မှာ–

- ကျမ်းဂန်များ၊ သတင်းများနှင့် မဂ္ဂဇင်းများ ထုတ်ဝေခြင်း။
- ပညာရေးနယ်ပယ်၌ များစွာသော ကောလိပ်များ တည်ထောင်ခြင်း။
- ကမ္ဘာအနှံ့ သာသာနာပြု အဖွဲ့များစေလွှတ်ခြင်းနှင့် ဆေးရုံများ တည်ဆောက်ခြင်း။

## ကာဒယာနီတို့၏ အဓိက ယုံကြည်ချက်များ။

❑ ဂိုလာမ်အဟ်မဒ်ကို နဗီအဖြစ်လက်ခံယုံကြည်ကြသည်။

❑ ယင်းတို့ထံတွင် ကုရ်အာန်နှင့် အဆင့်တူသည့် ပါရာဟ်《၂၀》ရှိ သီးသန့်ကျမ်းတစ်စောင်ရှိသည်ဟု ယုံကြည်ထားကြသည်။ ထိုကျမ်းအမည်မှာ ﴿اَلْكِتَابُ الْمُبِيْنُ﴾ ဖြစ်သည်။

❑ ကာဒယားန်မြို့သည် မက္ကာဟ်နှင့် မဒီနာထက် သာပိုမွန်မြတ်ကြောင်း ယုံကြည်ကြသည်။

❑ ယင်းတို့ထံပါး၌ ဟဂ်ျမှာ နှစ်စဉ်ကျင်းပသည့် ကာဒယားန်မြို့ရှိ ညီလာခံကို တက်ရောက်ခြင်းဖြစ်သည်။

# ဘဟာအီယာ (BAHAISM)

1. အခိုပွာယ်ဖွင့်ဆိုချက်။
2. တည်ထောင်သူ
3. ဘဟာ၏ မှားယွင်းသော အယူဝါဒများ။
4. ဘဟာအီယာ ကျမ်းဂန်များ။
5. မိမိတို့ကျမ်းဂန်များကြောင့် အရှက်တကွဲ ဖြစ်မှု ခံစားရခြင်း။
6. ဘဟာအ်သေဆုံးပြီးနောက် ဘဟာအီယာတို့၏ အသစ်တစ်ဖန်ပြောင်းလဲ လာပုံ။
7. ဘဟာအီယာတို့နှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်။

# ဘဟာအီယာ《BAHAISM》

## 1 အစပြုဘာယ်ဖွင့်ဆိုချက်

ဘဟာအီယာဆိုသည်မှာ اَلْمِيْرْزَا بَهَاءُ اللهِ حُسَيْنٌ عَلِيُّ اَلْمَازِنْدَرَانِيْ ၏ နောက်လိုက်များဖြစ်ကြသော အစ္စနာအရှရီယာအဖွဲ့မှ ခွဲထွက်လာသည့် ကာဖိရ်အဖွဲ့တစ်ဖွဲ့ဖြစ်သည်။ ယင်းတို့၏ ဌာနီမှာ အီရန်နိုင်ငံဖြစ်သည်။

## 2 တည်ထောင်သူ

ဘဟာအီယာဂိုဏ်းကို တည်ထောင်သူမှာ ﴿اَلْمِيْرْزَا بَهَاءُ اللهِ حُسَيْنٌ عَلِيُّ اَلْمَازِنْدَرَانِيْ﴾ ဖြစ်သည်။ ယင်းသည် ဟစ်ဂျရီ ၁၂၃၃ ခုနှစ်တွင် တီဟီရန်မြို့၌ မွေးဖွားသည်။ ထို့နောက် ၎င်းသည် ရာဖိဒ္ဓီလမ်းစဉ်ပေါ်၌ ကြီးပြင်းခဲ့ပြီး ဆူဖီများနှင့် ရှင်သန်ကြီးပြင်းခဲ့ရာ ယင်းတို့၏ စာအုပ်များကို များစွာလေ့လာခဲ့သူတစ်ဦးလည်းဖြစ်သည်။ ၎င်းနောက် اَلْبَابِيَّةُ ဂိုဏ်းခေါင်းဆောင် اَلْبَابُ က မိမိသည် ရာဖိဒ္ဓီများ စောင့်မျှော်နေသည့် မဟ်ဒီဖြစ်ကြောင်း ကြေညာသောအခါ ဘဟာက ယင်းနောက်သို့ လိုက်ခဲ့သည်။ ထို့ပြင် ၎င်း၏ မိန့်မှာချက်များကိုပါ ဖြန့်ချီပေးသည်။ اَلْبَابُ က မိမိတို့သည် အစ္စလာမ်နှင့် မသက်ဆိုင်ကြောင်း ထုတ်ဖော်သည့် **babism**

ညီလာခံကိုလည်း တက်ရောက်ခဲ့သည်။ ထို့နောက် اَلْبَابِيَّةُ ဂိုဏ်းဝင်များက ဘုရင်ကို လုပ်ကြံရန် ကြံစည်ကြပြီးနောက်တွင် ဘဟာသည် အကျဉ်းချခံခဲ့ရသည်။ သို့သော် ဗြိတိသျှနှင့် ရုရှား သံရုံးတို့၏ ဖိအားပေးမှုကြောင့် နောက်ဆုံးတွင် ၎င်းကို ဘဂ္ဂဒက်သို့ ပြည်နှင်ဒဏ်ပေးခံခဲ့ရသည်။ ၎င်း၏ ယဉ်ကျေးမှု ထုံးတမ်းများမှာ ရုပ်ထုကိုးကွယ်သည့် သာသနာများ၏ ဓလေ့ထုံးတမ်းများနှင့် ရောနှောနေပေသည်။ သို့သာမက ဂျူးဘာသာ၊ ဘာသ္တိနီယာဂိုဏ်းနှင့် ဆူဖီယာလမ်းစဉ်များ၏ ဓလေ့ထုံးတမ်းများနှင့်ပါ ရောစပ်နေပေသည်။

## 3 ဘဟာ၏ မှားယွင်းသော အယူဝါဒများ။

✍ ကနဦးတွင် ဘဟာသည် မိမိမှာ اَلْبَابُ ၏ ခလီဖဟ်ဖြစ်သည်ဟု ကြွေးကြော်သည်။ ထို့နောက် မိမိသည် ကေယာမသ်နီးသည့်အခါ မြေပထဝီသို့ ပြန်လည်ဆင်းသက်လာမည့် တမန်တော်အီစာဖြစ်၍ اَلْبَابُ သည် ဤအကြောင်းကို သတင်းပေးသူသာ ဖြစ်သည်ဟု ကြွေးကြော်ခဲ့သည်။

✍ ထို့နောက် ၎င်းသည် နဗီဖြစ်၍ ယင်းထံသို့ ﴿الْأَقْدَسُ﴾ ကျမ်းကို ဝဟီအဖြစ်ချပေးခံရသည်ဟု ကြွေးကြော်ပေးသည်။

✍ ဘဟာသည် ကိုးကွယ်ရာ အရှင်ဖြစ်ကြောင်း ကြွေးကြော်၍ မိမိမျက်နှာပေါ်တွင် နေကာဗ်ချကာ အလ္လာဟ်အရှင် စံမြန်းနေသော မျက်နှာတော်ကို စက္ခုအာရုံဖြင့် မြင်တွေ့နိုင်စွမ်းမရှိဟု ပြောကြားပေသည်။

✍ ဘဟာသည် မိမိ၏ ဖိတ်ခေါ်မှုကို အစ္စလာမ်မဟုတ်သည့် သီးခြားသာသနာတစ်ခုအဖြစ် လက်ခံယုံကြည်၍ ယင်း၏ သာသနာသည် ဘာသာပေါင်းစုံကို စုစည်းထားသော သာသနာဖြစ်သည်ဟု ဆိုသည်။ ထို့နောက် ၎င်းသည် မိမိ၏ ကိုယ်၌ အလ္လာဟ်အရှင်စံမြန်းနေသည်ဟု ကြွေးကြော်ကာ အုပ်ချုပ်သူများထံသို့ သူ၏ ကျမ်းဂန်များကို ပို့ဆောင်သည်။ ထိုကျမ်းဂန်များကို စူရာဟ်များဟူ၍လည်း အမည်ပေး ခေါ်ဆိုသည်။

✍ ဘဟာသည် မိမိတည်ရှိသည့်နေရာကို ယင်း၏ နောက်လိုက်များက နမားဇ်ဝတ်ပြုသည့်အခါ ဦးလှည့်ရန် ကစ်ဗ်လာအဖြစ် သတ်မှတ်ခဲ့သည်။

## 4 ဘဟာအီယာ ကျမ်းဂန်များ။

ဘဟာသည် ﴿الأَقْدَس﴾ ကျမ်းကို ပြုစုခဲ့သည်။ ထို့နောက် မိမိသည် ဘုရားသခင်ဖြစ်ကြောင်းကြွေးကြော်နေပါလျက် ယင်းကျမ်းသည် ဘုရားသခင်၏ အလိုဖြစ် မိုးကောင်းကင်မှ ကျရောက်ခဲ့သည်ဟု ဆိုသည်။ ထိုကျမ်းသည် အလယ်အလတ်ပုံစံရှိ စာမျက်နှာ《၂၂》မျက်နှာ

ပါဝင်သော ကျမ်းစောင်တစ်ခုဖြစ်သည်။ စာရှုသူသည် ယင်းကျမ်း၌ ထင်ရှားပြတ်သားသော လိမ်လည်မှုကို တွေ့ရှိရပေမည်။ ထို့နောက် ယင်းကျမ်းတွင် အကျိုးမရှိသည့် အမိန့်ပညတ်များ၊ မိုက်မဲသော အတွေးအခေါ်များ၊ လူနှင့် လူ့ပတ်ဝန်းကျင်ဆိုင်ရာ အကျိုးမရှိသည့် ပညတ်များ၊ ကုရ်အာန်စာသားများကို လိုက်လံတုဖက်ရေးသားရာ၌ ဟာသဆန်သည့် ဝါကျဖွဲ့စည်းပုံဆိုင်ရာ အမှားအယွင်းများ စသည်တို့ကို တွေ့ရှိရပေသည်။ ထို့ကြောင့် ဖော်ပြပါ အကြောင်းအရာများ ပေါ်လွင်စေရန် ယင်းကျမ်းမှ စာသားအချို့ကို တင်ပြပါမည်။

﴿إنا أمرناكم بكسر حدودات النفس والهوى، لا ما رقم في القلم الأعلى، إنه لروح الحيوان لمن في الإمكان﴾

ဆိုလိုသည်မှာ "ငါသည် အသင်တို့ကို မြင့်မြတ်တော်မူသော ကလောင်တွင် ရေးသားထားခြင်းမရှိသည့် အလိုရမ္မက်များအား ချိုးနှိမ်ရန် အမိန့်ပေးတော်မူသည်။ မုချ ဤသည် ဖြစ်တည်မှုရှိသူတိုင်းအတွက် ရှင်သန်ခြင်း ဝိဉာဉ်တော်ဖြစ်သည်။"

## 5 မိမိတို့ကျမ်းဂန်များကြောင့် အရှက်တကွဲ ဖြစ်မှု ခံစားရခြင်း။

ဘဟာအီတို့သည်မိမိတို့ကျမ်းဂန်ကြောင့် အရှက်တကွဲဖြစ်ရသည့်အတွက် ထို﴿الْأَقْدَسُ﴾ကျမ်းအား ပုံနှိပ်ထုတ်ဝေခွင့်ကို အချိန်

အတော်ကြာကတည်းကပင် ပိတ်ပင်ခဲ့သည်။ ထို့နောက် အရှက်တကွဲ ဖြစ်ရမည်ကို စိုး၍ မိမိ၏ နောက်လိုက်များကိုလည်း ထိုကျမ်းပုံနှိပ်ခြင်း အား တားမြစ်ခဲ့သည်။ သို့ဖြစ်ပေရာ ဘဟာအီဂိုဏ်းကို အမွေဆက်ခံသည့် ﴿اَلْمِيْرْزَا بَهَاءُ اللهِ حُسَيْنٌ عَلِيُّ اَلْمَازِنْدَرَانِيْ﴾၏ သားဖြစ်သူ ခလီဖဟ် အဗ္ဗားစ်သည် ထိုကျမ်းကို ပုံနှိပ်ခွင့်တောင်းခံသူအား ဤသို့ ဖြေကြားခဲ့သည်။

“ ယင်းကျမ်းကို ပုံနှိပ်ထုတ်ဝေပါက အယူသည်းအောက်တန်းကျသည့် သူများလက်ဝယ်သို့ ရောက်ရှိမည်ဖြစ်သောကြောင့် ပုံနှိပ်ထုတ်ဝေခြင်း ကို တားမြစ်ခြင်းဖြစ်သည်။”

## 6 ဘဟာအ်သေဆုံးပြီးနောက် ဘဟာအီယာတို့၏ အသစ်တဖန်ပြောင်းလဲ လာပုံ။

ဘဟာအ်သေဆုံးပြီးနောက်တွင် ၎င်း၏ သားဖြစ်သူ အဗ္ဗားစ်သည် ခလီဖာအဖြစ် ဆက်ခံ၍ အဗ္ဗဒုလ်ဗဟာအ်ဘွဲ့ကို ခံယူလေသည်။ ၎င်းနောက် ယင်းပုဂ္ဂိုလ်သည် ဖခင်ဖြစ်သူ၏ပို့ချမှုများကို အနောက်တိုင်းအတွေးအခေါ်၊ ယဉ်ကျေးမှုနှင့် ကိုက်ညီသော သင်ကြားပို့ချမှုများဖြင့် ပြောင်းလဲခဲ့သည်။ ထို့နောက် ယင်းပညတ်များကို ဂျူး၊ အမေရိက နှင့် **Turkestan** နိုင်ငံတွင် နေထိုင်ကြသည့် မာဂီ (မီးကိုး ကွယ်ကြသူ) များထံမှ တစ်ဆင့်ယူခဲ့သည်။ ထို့ကြောင့် အချို့အနောက်တိုင်းသားများ

က ၎င်းကို ကူညီကြသည်။ သို့ဖြစ်ပေရာ ၎င်းအတွက် ချီကာဂိုတွင် စင်တာတစ်ခု ရရှိပြီး ၁၉၁၀ခုနှစ်တွင် «نجم الغرب» ❁အ နောက်တိုင်းကြယ်ပွင့်❁ ဟူ၍ မဂ္ဂဇင်းတစ်ခုလည်း ထွက်ရှိခဲ့ပေသည်။ ထို့နောက် အဗ္ဗားစ်သည် ၎င်းနှင့် ဖခင်ဖြစ်သူကို ဂျူး၊ ခရစ်ယာန်သံရုံးများက သတင်းကောင်းများပေသည်ဟု ကြွေးကြော်ပေသည်။

## 7 ဘဟာအီယာတို့နှင့်ပတ်သက်၍ အစ္စလာမ့်အမိန့်။

မွတ်စ်လင်မ်ပညာရှင်များက ဘဟာအီဝါဒီများသည် ကာဖိရ်ဖြစ်၍ အစ္စလာမ့်ဘောင်အတွင်း မရှိသူများဟူ၍ ဖသ်ဝါပေးထားကြသည်။ ထို့နောက် မွတ်စ်လင်မ်များအနက်မှ ဘဟာအီအယူဝါဒကို ယုံကြည်သူသည်လည်း မုရ်သဒ်ဖြစ်သည်ဟု ဖသ်ဝါ ထုတ်ပြန်ထားပေသည်။

# နိဂုံး

ကောင်းခြင်းတရားများကို မိမိ၏ နေ့အိမ်မသ်တော်ဖြင့် ပြည့်စုံစေတော်မူသော အလ္လာဟ်အရှင်မြတ်ကို ဦးစွာပထမ ချီးမွမ်းထောမနာ ပြုပါ၏။

ဤကမ္ဘာပေါ်ရှိဘာသာတရားကြီးများနှင့် ဂိုဏ်းဂဏများ အကျဉ်းချုံးကို တင်ဆက်ပြီးနောက် ကျွန်တော်နှင့် မွတ်စ်လင်ထုတစ်ရပ်လုံးသည် အောက်ပါအချက်ကို မိမိကိုယ်မိမိ အမြဲသတိပေးရမည် ဖြစ်သည်။ ၎င်းမှာ "အလ္လာဟ်အရှင်မြတ်သည် မိမိသာသနာတော်ကို ကျွန်ုပ်တို့ မွတ်စ်လင်မ်များထံသို့ အပ်နှံထားခြင်းဖြစ်ရာ ကျွန်ုပ်တို့သည် ယင်းသာသနာဘက်သို့ ဖိတ်ခေါ်ခြင်း၊ ထိုသာသနာဖြန့်ချိရာလမ်း၌ ကြိုး စားအားထုတ်ခြင်းများ ပြုရမည်"ဟူသော အချက်ပင် ဖြစ်သည်။

ဤတာဝန်၏ လိုအပ်ချက်မှာ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်း ကိုးကွယ်ခြင်း (သောင်ဟီးဒ်တရား)ကို နှုတ်၊ ဉာဏ်အမြော်အမြင်နှင့် ခွန်အားတို့ဖြင့် ကာကွယ်ရမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ကို လမ်းမှန်တရားနောက်သို့လိုက်ရန် မိန့်မှာထားပေသည်။ ထို့ပြင် ကာဖိရ်တို့၏ လမ်စဉ်များနှင့်

လမ်းမှားများမှ ရှောင်ကျဉ်ရန်လည်း အမိန့်ပေးထားတော်မူလေသည်။ ထို့နောက် ဤစာအုပ်ငယ်တွင်ဖော်ပြထားသော ဘာသာတရားများနှင့် လမ်းစဉ်တို့အားလုံးသည် မှားယွင်းသည့် ကုဖ်ရ်ဘာသာတရားများ၊ လမ်းစဉ်များ ဖြစ်ကြသည်။ သို့ဖြစ်ပေရာ ဤအကြောင်းအရာများကို ကျွန်ုပ် တင်ပြခြင်းသည် သမိုင်းနှင့် အသိပညာ တိုးပွားစေရန် သီးသန့် မဟုတ်ဘဲ မွတ်စ်လင်မ်များအနေဖြင့် မိမိ၏ရန်သူနှင့် ရန်သူ၏ ဘာသာတရားများ၊ လမ်းစဉ်များကို သိနားလည်ပြီးနောက် ယင်းတို့ကို ရှောင်ကျဉ်နိုင်ရန်နှင့် လူသားထုတစ်ရပ်လုံးကို နှစ်ဘဝ နှစ်ဌာန ကံဆိုးခြင်းမှ ကယ်တင်ပေးနိုင်မည့် အစ္စလာမ့်မ်နူးရ်ရောင်ခြည်အတွက် ကြိုးပမ်းအားထုတ်ရန် ဖြစ်သည်။ ထို့ကြောင့် အစ္စလာမ်သာသနာတော်က မွတ်စ်လင်မ်များအတွက် ကာဖိရ်များနှင့် ဆက်ဆံသည့်အခါ မည်သို့မည်ပုံ ဆက်ဆံရမည်ကို အောက်ပါအတိုင်း ချမှတ်ပေးထားပေသည်။

📝 ၎င်းတို့၏ သီးခြား ယုံကြည်ချက်များ၊ အဲဗာဒသ်ကဏ္ဍများနှင့် ဝေးကွာစွာ နေထိုင်ရမည်။

📝 ၎င်းတို့၏ သီးခြား အမွေအနှစ်များ၊ ဓလေ့ထုံးတမ်းများ၊ ယုံကြည်ချက်များ၊ ပြောဆိုနေထိုင်ပုံများနှင့် လိုက်လံတုဖက်ခြင်းမှ ရှောင်ကျဉ်ရမည်။

ငင်းတို့ကို ယုံပုံအားကိုး၍ နှလုံးသားဖြင့် ချစ်ခင်စွာ ဆက်ဆံသမှုပြု ခြင်းမှ ရှောင်ကျဉ်ရမည်။

ငင်းတို့နှင့် အရောင်းအဝယ်ကဏ္ဍများတွင် ဆက်ဆံရာ၌ အစ္စလာမ့် အမိန့်များကို တစ်သဝေမတိမ်းလိုက်နာပြီး မွတ်စ်လင်မ်များ အကျိုးရှိ မည့် အတိုင်းအတာနှင့် အညီသာ ဆက်ဆံသမှု ပြုရမည်။

အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့ အကျိုးအတိုင်းအတာနှင့် အညီသာ ငင်းတို့နှင့် ဆက်ဆံသမှု ပြုရမည်။

➩ ထိုသို့ပြုမှု ဆက်ဆံရာတွင် အစ္စလာမ်နှင့် မွတ်စ်လင်မ်များကို မုန်း တီးမှုမရှိသူများအား ကောင်းစွာဆက်ဆံခြင်းမှ အပာန့်အတားမဖြစ်စေ ရ။ “အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အကြင်သူတို့ကို ကျေးဇူး ပြုခြင်းမှ လည်းကောင်း၊ တရားမျှတစွာ ဆက်ဆံခြင်းမှလည်းကောင်း၊ တားမြစ်တော်မူသည် မဟုတ်ပေ။ ထိုသူတို့သည် အသင်တို့အား “ဒီန်” သာသနာနှင့် စပ်လျဉ်း၍ တိုက်ခိုက်ခဲ့ကြသည်လည်း မဟုတ်ပေ။ အသင်တို့အား အသင်တို့၏ နေအိမ်များမှ နှင်ထုတ်ခဲ့သည်လည်း မ ဟုတ်ပေ။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် တရားမျှတသော သူတို့အား နှစ်သက် ချစ်တော်မူ၏။ (၆၀-၈)

အလ္လာဟ်အရှင်မြတ်သည် မိမိ၏သာသနာတော်ကို ဂုဏ် သိက္ခာနှင့် လွှမ်းမိုးစေတော်မူပြီး မွတ်စ်လင်မ်လူငယ်များကို သာသနာ့

အကျိုးသယ်ပိုးနိုင်မည့် အရာများဘက်သို့ လမ်းညွှန်ပြသပေးရန် အရှင်မြတ်ထံတော်ပါး၌ တောင်းဆုပြုပါ၏။ သို့ဖြစ်ပေရာ အရှင်မြတ်သည်သာလျှင် လမ်းမှန်တရားကို ပြသပေးတော်မူသော အရှင်ဖြစ်ပါသည်။ ထို့နောက် အမှားနှင့် အမှန်ကို ခွဲခြားပြသပေးခဲ့သော ကိုယ်တော်မြတ်(ﷺ)အပေါ်သို့ အလ္လာဟ်အရှင်မြတ်၏ ဆွလဝသ်စလာမ်များ ကျရောက်ပါစေ။ **(အာမီးန်)**

**ဆန္ဒမွန်ဖြင့်...... မုဟမ္မဒ်ဖိုင်ဆွဲလ်**
**(အလ်ကောင်ဆရီ)**

| မိုင်ငြမ်းကိုးကားကျမ်းများ | | | |
|---|---|---|---|
| စဉ် | ကျမ်းအမည် | ကျမ်းရှင်အမည် | ပုံနှိပ်တိုက် |
| ၁ | الموجز في الأديان والمذاهب المعاصرة | ناصر بن عبد الله القفاري<br>ناصر بن عبد الكريم العقل | المجمع العلمي لنشر المناهج والعلوم الإسلامية |
| ၂ | الأديان والفرق والمذاهب المعاصرة | عبد القادر شيبة الحمد | دار الزمان |